ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

# “ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်”

PROPOSAL OF THE INVESTOR TO MAKE INVESTMENT ACCORDING TO MYANMAR CITIZENS INVESTMENT LAW IN THE REPUBLIC OF THE UNION OF MYANMAR

# GREAT HOR KHAM PUBLIC COMPANY LIMITED

# " မာတိကာ "

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

စာအမှတ် ၊ ဂဟခ/၇-၂/ ထွေ-ချုပ် ( ၂၈၇ )။
ရက်စွဲ ၊ ၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ (၂၀) တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် ကျွန်တော်တို့၏ ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက် (Great Hor Kham Public Co., Ltd) သည် ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့၊ စယ်လန့်ကျေးရွာနှင့် မန့်မိုင်ကျေးရွာအုပ်စုရှိ နမ့်ပေါ်ချောင်းတွင် ဆည်တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အားထုတ်လုပ်၍ ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

၂။ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေခြင်း၊ ဒေသခံများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေခြင်း၊ ဒေသဖွံ့ဖြိုးတိုးတက်စေခြင်းနှင့် နိုင်ငံတော် လျှပ်စစ်ဓာတ်အားဖူလုံရေးအတွက် အထောက်အကူဖြစ်စေခြင်း စသောအကျိုးကျေးဇူးများ ဖြစ်ထွန်းစေပါသည်။ သို့ဖြစ်ပါ၍ ကျွန်တော်များ၏ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ (၂၀) တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

၃။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

ပူးတွဲပါ -

- ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်။
- ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ။
- လုပ်ငန်းပိုင်နှင့် ငွေကြေးအထောက်အထားများ။
- သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ
- ရုံးလက်ခံ။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

စာအမှတ် ၊ ဂဟခ/ ၇-၂/ ထွေ-ချုပ် ( ၂၈၆ )။
ရက်စွဲ ၊ ၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ ၇ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ။ ။ **ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက် (Great Hor Kham Public Co., Ltd) ၏ ရေအားလျှပ်စစ်ထုတ်လုပ်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မအရ တရားဝင်ဖွဲ့စည်းထည်ထောင်ထားသည့် ကျွန်တော်တို့၏ ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက် (Great Hor Kham Public Co., Ltd) သည် ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်ရှိ နမ့်ပေါ်ချောင်းအား ဆည်တည်ဆောက်၍ ရေအားလျှပ်စစ်ထုတ်လုပ်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့် ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

( က ) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။

( ခ ) ဤလုပ်ငန်းသည် နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

( ဂ ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

( ဃ ) နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

( င ) ထို့အပြင် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ နည်းဥပဒေ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

( စ ) ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက် (Great Hor Kham Public Co., Ltd) အနေဖြင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ ညွှန်ကြားချက်များကို လိုက်နာသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ
- ရုံးလက်ခံ

000559

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FROREIGN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

GREAT HOR KHAM PUBLIC CO.,LTD.

## ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
(ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ် ၊ ဂဟခ/၇-၂/ထွေ-ချုပ် (၂၈၈ )။
ရက်စွဲ ၊ ၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်။

ကျွန်တော်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

(က) အမည် - ဦးစိုင်းအုန်းမြင့်
(ခ) အဖအမည် - ဦးမိုင်ဆွမ်း
(ဂ) နိုင်ငံသား၊ အမျိုးသားမှတ်ပုံတင်အမှတ် - ၁၃/မဆတ(နိုင်)၀၁၂၉၀၈
(ဃ) နေရပ်လိပ်စာ - ဟ-၁/၇၉၊ ဟိုမွန်ရပ်ကွက်၊ မူဆယ်မြို့။
(င) လူမျိုး၊ ဘာသာ - ရှမ်း၊ ဗုဒ္ဓဘာသာ
(စ) အဖွဲ့အစည်းအမည် - ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်
(ဆ) လုပ်ငန်းအမျိုးအစား - အခြေခံအဆောက်အဦ တည်ဆောက်ရေးနှင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း၊ ကုန်သွယ်ရေး။
(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - ကလ-၁၅၊ကောင်းမူးလွယ်ရပ်ကွက်၊ မူဆယ်မြို့။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်

ဖက်စပ်ပြုလုပ်မည့် သူများ၏....... - မရှိပါ
(က) အမည် -
(ခ) အဖအမည် -
(ဂ) နိုင်ငံသား၊ အမျိုးသားမှတ်ပုံတင်အမှတ် -
(ဃ) နေရပ်လိပ်စာ -
(င) လူမျိုး၊ ဘာသာ -
(စ) အဖွဲ့အစည်းအမည် -
(ဆ) လုပ်ငန်းအမျိုးအစား -
(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် -

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -

( က ) ကုန်ထုတ်လုပ်မှုလုပ်ငန်း - BOT စနစ်ဖြင့် ရှမ်းပြည်နယ်၊ မူဆယ်မြို့ မှ ၆ ကီလိုမီတာခန့်အကွာ၊ နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းကို တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်သည့် လုပ်ငန်း။

( ခ ) ဝန်ဆောင်မှုလုပ်ငန်း -

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ

( က ) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုအစပ်လုပ်ကိုင် ဆောင်ရွက်ခြင်း - လီမိတက်ကုမ္ပဏီ

( ခ ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

( ဂ ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်၍လုပ်ကိုင်ဆောင်ရွက်ခြင်း။ -

၅။ ဖွဲ့စည်းထားပြီး သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

( က ) တစ်ဦးတည်းပိုင် -
( ခ ) ဖက်စပ်၊ အစုအစပ်လုပ်ငန်း -
( ဂ ) လီမိတက် ကုမ္ပဏီ - ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်
( ဃ ) သမဝါယမအသင်း -

၆။ ဖက်စပ်၊ အစုအစပ်လုပ်ငန်းဖြစ်ပါက-

( က ) အစုအစပ်တို့က ထည့်ဝင်မည့်အစုငွေ အချိုးအစားနှင့် ပမာဏ -
( ခ ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား -
( ဂ ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ -

၇။ လီမိတက်ကုမ္ပဏီဖြစ်ပါက-

( က ) ခွင့်ပြုမတည်ငွေရင်း - ၃၀,၀၀၀,၀၀၀,၀၀၀/-(ကျပ်သန်း သုံးသောင်းတိတိ)
( ခ ) အစုရှယ်ယာ အမျိုးအစား - သာမန် အစုရှယ်ယာ
( ဂ ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ၁၀,၀၀၀,၀၀၀,၀၀၀/-(ကျပ်သန်းတစ်သောင်းတိတိ) ကျပ် (၁,၀၀၀) တန်အစု (၁၀,၀၀၀,၀၀၀) သန်းတစ်ဆယ်။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

( က ) မတည်ရင်းနှီးငွေပမာဏ (ယခုအဆိုပြုလုပ်ငန်းအတွက်)

| Capital Structure | Equity | Loan | Total |
|---|---|---|---|
| Local | 14,165.50 | 16,785.77 | 30,951.27 |
| Foreign | - | 17,427.22 | 17,427.22 |
| Total | 14,165.50 | 34,212.99 | 48,378.50 |

မှတ်ချက် -

၁။ 1USD= Ks 1,218 (USD-14.31 million) ကိုပြည်ပဘဏ်တစ်ခုမှ ၄.၅% အတိုးဖြင့် ချေးယူပါမည်။

**( ခ - ၁ ) နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့်ပစ္စည်းစာရင်း** **သန်းပေါင်း**

| | | ကျပ် | USD | ပူးတွဲ (၃) |
|---|---|---|---|---|
| (၁) | Electro-mechanical equipment and installation works | - | ၇.၅၇၆ | ပူးတွဲ၃(က) |
| (၂) | Equipment and installation works of metal works | - | ၁.၅၃၉ | ပူးတွဲ၃(ခ) |
| (၃) | ကျွမ်းကျင်မှုနည်းပညာများ၏တန်ဖိုး | - | ၃.၂၇၉ | ပူးတွဲ၃(ဂ) |
| (၄) | 66 kV Transmission Line & Muse substation expanding works | - | ၀.၆၃၇ | ပူးတွဲ (ဃ) |
| (၅) | Interest During Construction | - | ၁.၂၇၇ | |
| | စုစုပေါင်း | | ၁၄.၃၀၈ | |

| **Draw** | **Back စနစ်ဖြင့်တင်သွင်းမည့်ပစ္စည်း စာရင်း** | ကျပ် | **USD** | |
|---|---|---|---|---|
| (၁) | စက်/ယာဉ် ယန္တရား ပစ္စည်းတန်ဖိုး | - | ၈.၂၆ | ပူးတွဲ၃(ည) |

| **(ခ -၂)** | **ပြည်တွင်းမှဝယ်ယူမည့်ပစ္စည်းနှင့်အသုံးစရိတ်** | ကျပ် | **USD** | |
|---|---|---|---|---|
| (၁) | Construction Auxiliary Work | ၃၆၆၁.၃၀ | | ပူးတွဲ၃(င) |
| (၂) | Construction project | ၁၆၄၉၆.၅၉ | | ပူးတွဲ၃(စ) |
| (၃) | Environmental protection, soil and water conservation works | ၁၅၈၀.၉၇ | | ပူးတွဲ၃(ဆ) |
| (၄) | Building land acquisition and the resettlement compensation cost | ၃၃၀၉.၆၇ | | ပူးတွဲ၃(ဇ) |

(၅) Basic Budget Reserves ၁၉၉၇.၅၃ ပူးတွဲ၃(ဈ)

(၆) Interest During Construction ၃၉၀၅.၂၁

စုစုပေါင်း ၃၀၉၅၁.၂၇

( ဂ ) တည်ဆောက်မှုကာလ - ၃၆ လအတွင်း

( ဃ ) ဖြစ်မြောက်နိုင်စွမ်းစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ- ၁၈ လ(ဆောင်ရွက်ပြီး)

( င ) တည်ဆောက်မှုစတင်မည့်အချိန် - ၁၆-၀၃-၂၀၁၆ တွင် MOA လက်မှတ်ရေးထိုးပြီး ၍ စတင်ဆောင်ရွက်နေပြီးဖြစ်ပါသည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ

( က ) လုပ်ငန်းအမျိုးအစား - တပ်ဆင်စက်အင်အား ၂၀ မဂ္ဂါဝပ်ရှိ နမ့်ပေါ် ရေအားလျှပ်စစ် စီမံကိန်းကို တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်သည့် လုပ်ငန်း။

( ခ ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့။

( ဂ ) ဆောင်ရွက်ပုံနည်းစနစ် - B.O.T စနစ်၊ သက်တမ်း ၅၀နှစ်၊ သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် စုစုပေါင်း နှစ် ၇၀။

( ဃ ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် (စီမံကိန်းကာလလိုအပ်ချက်ဖြစ်ပါသည်။)

| အမျိုးအမည် | အရေအတွက် |
|---|---|
| ( ၁ ) ဒီဇယ်ဆီ | - ဂါလံ (၁၇၀,၀၀၀) |
| ( ၂ ) ဓာတ်ဆီ | - ဂါလံ (၁၇,၀၀၀) |
| ( ၃ ) စက်ဆီ၊ ချောဆီ | - ဂါလံ (၅,၁၀၀) |

( င ) နှစ်စဉ်လျှပ်စစ်ဓာတ်အား လိုအပ်ချက်အသုံးပြုမှု (စီမံကိန်းကာလလိုအပ်ချက်ဖြစ်ပါသည်။)

( ၁ ) လျှပ်စစ်ဓာတ်အား - ၃.၃ ကီလိုဝပ်နာရီသန်းပေါင်း

( ၂ ) ဓာတ်ဆီ၊ ဒီဇယ် အင်ဂျင်စက်အင်အား - ၁၅၀ ကီလိုဝပ်

( ၃ ) ဘွိုင်လာအသုံးပြု အင်ဂျင်စက်အင်အား- -

( ၄ ) သဘာဝဓာတ်ငွေ့သုံးအင်အား - -

( ၅ ) ပေးပို့သည့်အခြားအား (ရေအား၊ လေအား စသည်များ - -

( စ ) နှစ်စဉ်ရေလိုအပ်ချက် - (စီမံကိန်းကာလလိုအပ်ချက်ဖြစ်ပါသည်။)

( ၁ ) တစ်နေ့ရေလိုအပ်ချက် - ဂါလံ (၁) သိန်း
( ၂ ) တစ်နှစ်ရေလိုအပ်ချက် - ဂါလံ (၃၆၅) သိန်း

( ဆ ) နှစ်စဉ်လုပ်ငန်းပစ္စည်း၊ ကုန်ကြမ်းလိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ( ၁ ) အဓိကကုန်ကြမ်း | | | | |
| (က) ................ | ................ | ................ | ................ | ................ |
| (ခ) ................ | ................ | ................ | ................ | ................ |
| ( ၂ ) အထောက်အကူပြုကုန်ကြမ်း | | | | |
| (က) ................ | ................ | ................ | ................ | ................ |
| (ခ) ................ | ................ | ................ | ................ | ............... |
| ( ၃ ) ဓာတ်ဆီသုံး၊ ဓာတ်ငွေ့များ | | | | |
| (က) ................ | ................ | ................ | ................ | ................ |
| (ခ) ................ | ................ | ................ | ................ | ................ |

( ဇ ) အဆောက်အအုံလိုအပ်ချက် -

( ဈ ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက် - စက်မှုမြေငှားဂရန်ဖြင့် လျှောက်ထားဆောင်ရွက်မည်။ ပူးတွဲပါ (၁၁)

( ည ) ခန့်မှန်းထုတ်လုပ်မည့် လျှပ်စစ်ဓာတ်အား - ပူးတွဲ ( ၆ )

( ဋ ) ရောင်းချမည့်နည်းစနစ် - လျှပ်စစ်ဓာတ်အားဝယ်ယူရေးသဘောတူစာချုပ်ဖြင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ မဟာဓာတ်အားလိုင်းနှင့် ချိတ်ဆက်ပြီးရောင်းချခြင်း။ ပူးတွဲပါ (၁၂)

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု၊ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ - ခန့်မှန်းခြေ

( က ) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့်ကျပ်ငွေ - ပူးတွဲ ( ၁၀ )

( ခ ) လိုအပ်မည့် နိုင်ငံခြားငွေ - -

( ဂ ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ - -

( ဃ ) ပြည်ပသို့တင်ပို့ရောင်းချမည့် တန်ဖိုးပမာဏ - -

( င ) နှစ်စဉ်ပြည်တွင်း၌ ရောင်းချမည့်ပမာဏ - ပူးတွဲ(၆)

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းစာရင်း

( က ) တည်ဆောက်ရေးကာလ လိုအပ်မည့်အမှုထမ်းစာရင်း - ပူးတွဲ - ၂ (အေ)

( ခ )	လုပ်ငန်းလည်ပတ်မှုကာလ လိုအပ်မည့်အမှုထမ်းစာရင်း	-	ပူးတွဲ - ၂ (ဘီ)

( ဂ )	ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်း	-	၅၃၄ ဦး

( ဃ )	နိုင်ငံခြားမှလိုအပ်မည့် ကျွမ်းကျင်သူနှင့် ပညာရှင်များ

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်အပ်မည့်ကာလ |
|---|---|---|
| Technician | ၁၅ | ၃၆ လ |
| Management | ၂၀ | ၃၆ လ |

၁၂။	စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ

( က )	ရင်းနှီးမြှုပ်နှံမှု	-	ပူးတွဲ ( ၄ )
( ခ )	နှစ်စဉ် အသားတင်အမြတ်	-	ပူးတွဲ ( ၅ )
( ဂ )	နှစ်စဉ်ထုတ်လုပ်မှုနှင့် ရောင်းချမှု	-	ပူးတွဲ ( ၆ )
( ဃ )	နှစ်စဉ် တန်ဖိုးလျော့စာရင်း	-	ပူးတွဲ ( ၇ )
( င )	အရင်းကြေကာလ	-	ပူးတွဲ ( ၈ )
( စ )	Cash Flow & IRR	-	ပူးတွဲ ( ၉ )
( ဆ )	ချေးငွေပြန်ဆပ်မှုအစီအစဉ်	-	ပူးတွဲ ( ၁၀ )

၁၃။	ဆောင်ရွက်ရန်အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများအဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

( က )	သဘောတူညီမှုစာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စအတွက်)	-	နားလည်မှုစာချွန်လွှာ၊ ပဋိညာဉ်စာချုပ်။
( ခ )	လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ စာရင်းဇယားနှင့် အထောက်အထားများ	-	ဘဏ္ဍာရေးရှင်းတမ်းများ
( ဂ )	ကုမ္ပဏီ ဆိုင်ရာအထောက်အထားများ	-	MOA, VI, XXVI

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

HOR KHAM

စာအမှတ် ၊ ဂဟခ/၇-၂/ထွေ-ချုပ် ( ၂၆၇ )။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်။

GREAT HOR KHAM PUBLIC CO.,LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ **ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အတွက် ဆောင်ရွက်ထားရှိမှု အခြေအနေများတင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မိမိတို့ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်သည် နမ့်ပေါ် ရေအားလျှပ်စစ်စီမံကိန်းလုပ်ငန်းအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်လေ့လာခြင်းကို "မြန်မာစဉ်ဆက်မပြတ်ဖွံ့ဖြိုးမှု အင်ဂျင်နီယာ ဝန်ဆောင်မှုကုမ္ပဏီလီမိတက်" နှင့် လုပ်ဆောင်လျက်ရှိပါပြီး၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၂ ရက်နေ့ထုတ် Scoping Proposal for Provision of EIA Service in Development of Nam Paw Hydropower Project (NPHPP)အား လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးသို့ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားခဲ့သည့်စာနှင့် သဘောထားမှတ်ချက် ပြန်လည်ပေးပို့ခဲ့သောစာတို့ကို ပူးတွဲ တင်ပြအပ်ပါသည်။

၂။ မိမိတို့ကုမ္ပဏီသည် နောင်တွင်သဘာဝပတ်ဝန်းကျင်ရေရှည်တည်တံ့မှုကိစ္စများ၊ ရိုးရာယဉ်ကျေးမှုအမွေအနှစ်များကို ကာကွယ်စောင့်ထိန်းခြင်းများကိုပါ ဦးတည်ဆောင်ရွက်နိုင်ရေး ပိုမိုတိကျပြတ်သားသော ကုမ္ပဏီ၏ လူမှုဝန်းကျင်နှင့် သဘာဝ ပတ်ဝန်းကျင်ပူးပေါင်းတာဝန်ယူမှုမူဝါဒအတိုင်း ဖော်ဆောင်သွားရန် စီစဉ်ထားပါသည်။ ကုမ္ပဏီသည် သဘာဝပတ်ဝန်းကျင်ဆိုင်ရာအတွက် နှစ်စဉ်ရရှိသောအသားတင်အမြတ်ငွေမှ ၂% အား သုံးစွဲသွားမည် ဖြစ်ပါသည်။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ

- ရုံးလက်ခံ။

**Myanmar Sustainable Development Engineering Services Co., Ltd.**
No. 21(I), U Kyaw Hla Street, 7 Miles, Mayangone Township, Yangon, Myanmar
T: +95 (0)9-7317-5448, +95(0)1-655-849, M: +95 (0) 9516- 0905
F: +95(0)1-655-849
Email: contact@myanmarsustainableengineers.com

Our Ref.: MSDES-138/0615-GHK
Your Ref.:
Date: 2 June 2015

U Sai Ohn Myint
Manager Director
Great Hor Kham Public Co. Ltd.,
Muse, Shan State (Northern)
Myanmar

Subject: Submission of scoping proposal for provision of EIA service in development of Nam Paw Hydro Power Project (NPHP); SP-MSDES-3/0515_EIA_NPHP_GHK

Dear U Sai Ohn Myint,

We, Myanmar Sustainable Development Engineering Services (MSDES), are very much pleased to submit scoping proposal (SP-MSDES-3/0515_EIA_NPHP_GHK) for provision of EIA service in development of Nam Paw Hydro Power Project (NPHP) by Great Hor Kham Public Co., Ltd.

Scoping proposal is required to submit to Ministry of Environmental Conservation and Forestry (MoECaF) for the purpose of review to ensure the performance and outcomes from future implementation of ESIA study. Submission of scoping proposal is considered as one of the fundamental requirements in advance of ESIA implementation in upcoming EIA procedure.

As initial stage of the EIA process, this scoping proposal has been prepared based on Good International Industrial Practice, the literature review, desk studies and 1st stakeholder meetings held in upstream (Tar Lone Village) and downstream (Ho Pot and Swan Saw Village). Some major possible impacts are stated in current scoping proposal however some project-specific impacts which are likely to be occurred can be addressed only after baseline field study.

This scoping proposal covers the following studies:

1) Environmental Geology,
2) Air Environment (Secondary or Desk study),
3) Water Environment,
4) Land Environment ,
5) Biodiversity Study (Flora and Fauna) ,
6) Geographical Information System (GIS) study,
7) Socio-economic and Health assessment,
8) Cultural and Heritage and
9) Occupational and community safety.

With copies sent to:

1) Director General, Environmental Conservation Department, Ministry of Environmental Conservation and Forestry
2) Office receipt

Yours sincerely,

2-6-2015

Aung Nanda
Managing Director

ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်
ဝင်စာနံပါတ် - ၅-၁၁၀၈၃
ရက်စွဲ - ၂၂.၃.၂၀၁၆

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ် ၊ လျှပ်စစ် -၂ (မူဝါဒ-နမ့်ပေါ်)( ၂၅၄၁ )/ ၂၀၁၆

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်

သို့

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

အကြောင်းအရာ။ **နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းဆိုင်ရာ ESIA ဆောင်ရွက်ရန်အတွက် တင်ပြလာသည့် Scoping Report အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ကိစ္စ**

၁။ ရှမ်းပြည်နယ်၊ မူဆယ်မြို့နယ်၊ စယ်လန့်ကျေးရွာအုပ်စု၊ မန်းဟန်ကျေးရွာအနီး နမ့်ပေါ်ချောင်းရေအရင်းအမြစ်ကို အသုံးပြု၍ နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် ရှမ်းပြည်နယ်အစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံသားပိုင် ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်တို့သည် နားလည်မှုစာချွန်လွှာ (MOU) အား (၇-၁၀-၂၀၁၄) ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ကြပါသည်။

၂။ စီမံကိန်းဖြစ်မြောက်နိုင်စွမ်း လေ့လာမှု အစီရင်ခံစာအရ တပ်ဆင်စက်အင်အား (၂၀ မဂ္ဂါဝပ်) ဖြစ်ပြီး စီမံကိန်းမှထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ဒေသတွင်း အသုံးပြု၍ ပိုလျှံသော လျှပ်စစ်ဓာတ်အား (၁၈)မဂ္ဂါဝပ်ကို နိုင်ငံတော်ပိုင်ဓာတ်အားလိုင်းသို့ ချိတ်ဆက်ဖြန့်ဖြူးမည်ဖြစ်သဖြင့် ဖွဲ့စည်းပုံအခြေခံ ဥပဒေ ၂၀၀၈၊ ဇယား(၂)အရ ပြည်ထောင်စုက စီမံခန့်ခွဲခွင့်ရှိသည့် ရေအားလျှပ်စစ် စီမံကိန်း တစ်ခုဖြစ်သဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်နိုင်ရေးအတွက် ရှမ်းပြည်နယ် အစိုးရအဖွဲ့မှ စီမံကိန်းဆိုင်ရာ စာချုပ်စာတမ်းများနှင့် ESIA ဆောင်ရွက်မည့် Scoping Report အား လွှဲပြောင်းပေးပို့ လာပါသည်။

၃။ သို့ဖြစ်ပါ၍ နမ့်ပေါ် ရေအားလျှပ်စစ်စီမံကိန်း၏ သဘာဝပတ်ဝန်းကျင်နှင့် လူမှုဘဝဆိုင်ရာ ထိခိုက်မှုစစ်တမ်း(ESIA)လုပ်ငန်းများအား Myanmar Sustainable Development Engineering Service Co.,Ltd. ဖြင့် ဆောင်ရွက်ရန် တင်ပြလာခြင်းနှင့် အဆိုပါ အဖွဲ့အစည်းမှ ပြုစုထားသော လုပ်ငန်းလျာထားချက် Scoping Report အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

ပူးတွဲလျက် - ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်မှ တင်ပြလာသည့် ESIA ဆောင်ရွက်မည့် Scoping Report (၁) အုပ်

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )

(မင်းသော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

- လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန
- ရေအားလျှပ်စစ်အကောင်အထည်ဖော်ရေးဦးစီးဌာန
- ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်
- တင်ပြ/လက်ခံ

DEPP

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန

စာအမှတ်၊ ၆၀၉ /၁၉၄/ရေ-ပြည့်ဖြိုး/စီမံရေး(လျှပ်စစ်)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ ဩဂုတ်လ ၂၉ ရက်

အကြောင်းအရာ။ **နမ့်ပေါ် ရေအားလျှပ်စစ်စီမံကိန်းဆိုင်ရာ ESIA ဆောင်ရွက်ရန်အတွက် တင်ပြလာသည့် Scoping Report အပေါ် ကနဦးသဘောထား မှတ်ချက်ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏(၂၃-၈-၂၀၁၆) ရက်စွဲပါစာအမှတ်၊ (သစ်တော) ၃/၁၆(ဃ)(၁၃၃၁/၂၀၁၆)

၁။ နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းဆိုင်ရာ ESIA ဆောင်ရွက်ရန်အတွက် ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်မှ (၁၁-၂-၂၀၁၆) ရက်နေ့တွင် တင်ပြလာသည့် Scoping Report အပေါ် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **ရည်ညွှန်း**ပါစာဖြင့် လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပါ နမ့်ပေါ် ရေအားလျှပ်စစ်စီမံကိန်းဆိုင်ရာ Scoping Report တွင်လိုအပ်သည့် အချက်အလက်များအား ထပ်မံဖြည့်စွက်၍ပြန်လည်တင်ပြရမည်ဖြစ်ပါသဖြင့် ဂရိတ်ဟော်ခမ်းများပိုင် ကုမ္ပဏီလီမိတက်အနေဖြင့် သိရှိဆောင်ရွက်နိုင်ပါရန်အကြောင်းကြားပါသည်။

ညွှန်ကြားရေးမှူးချုပ်( )
(ဟိန်းထက်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

**ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက်**

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

D/DSSH/Project/Nampaw/2016/DEP L.H

မူဝါဒ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
621 (e)
ရက်စွဲ 26 AUG 2016
အချိန် 12140

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၊(သစ်တော) ၃/၁၆(ဃ)(၁၃၃^၁/၂၀၁၆)
ရက်စွဲ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၃ ရက်

သို့

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းဆိုင်ရာ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း(ESIA) ဆောင်ရွက်ရန်အတွက် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာ (Scoping Report) အပေါ် ကနဦးသဘောထား မှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက်။ ယခင်လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၁၈ - ၂ - ၂၀၁၆ ရက်စွဲပါ စာအမှတ်၊ လျှပ်စစ်-၂(မူဝါဒ-နမ့်ပေါ်)(၂၅၄၁)/၂၀၁၆

၁။ ရှမ်းပြည်နယ်၊ မူဆယ်မြို့နယ်၊စယ်လန့်ကျေးရွာအုပ်စု၊ မန်းဟန်းကျေးရွာအနီး နမ့်ပေါ်ချောင်း ရေအရင်းအမြစ်ကိုအသုံးပြု၍ စက်တပ်ဆင်အင်အား (၂၀ မဂ္ဂါဝပ်) နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း အား အကောင်အထည်ဖော် ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံသားပိုင် Great Hor Kham Public Co., Ltd. မှ ပေးပို့လာသည့် နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းဆိုင်ရာ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်းအတွက် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာ အပေါ် စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း လာပါသည်။

၂။ အဆိုပါ နမ့်ပေါ်ရေအားလျှပ်စစ် စီမံကိန်းဆိုင်ရာ ESIA လုပ်ငန်းအတွက် နယ်ပယ် အတိုင်း အတာသတ်မှတ်ခြင်းအစီရင်ခံစာ (Scoping Report) တွင် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာတွင် ပါရှိရမည့် အချက်အလက်များနှင့် ကိုက်ညီမှု ရှိ/ မရှိ စိစစ်ရာ အောက်ဖော်ပြပါ အချက်များအား ပြင်ဆင် ဖြည့်စွက်ဖော်ပြရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်-

(က) စီမံကိန်းနှင့်သက်ဆိုင်သည့် Relevant Environmental Laws and Regulations နှင့်ပတ်သက်၍ ဇယား(၄.၁.၁)တွင် ဖော်ပြထားသော်လည်း စီမံကိန်းနှင့် စပ်ဆက်မှု

ရှိသည့် ပြည်တွင်းဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်ထုံးများနှင့် Relevant International treaties and conventions related to Environmental Affairs များအား ထပ်မံဖော်ပြရန်၊

(ခ) စီမံကိန်းတွင် အသုံးပြုမည့် ရည်မှန်းစံချိန်စံညွှန်းများနှင့်ပတ်သက်၍ နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာတွင် ဖော်ပြထားခြင်းမရှိသဖြင့် Scoping report ၏ Policy, Legal and Administrative Framework အခန်းအောက်တွင် ထည့်သွင်းဖော်ပြရန်၊

(ဂ) မြေသား/ ကျောက်စီတမံနှင့် ကွန်ကရစ်တမံ အမျိုးအစားအလိုက် ဖြစ်ပေါ်နိုင်သည့် ပတ်ဝန်းကျင်ထိခိုက်မှုများ မတူညီနိုင်သဖြင့် စီမံကိန်းတွင် အသုံးပြုမည့် တမံအမျိုးအစားအား ဖော်ပြရန်လိုအပ်ပြီး ယခု နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအဆင့်တွင် စီမံကိန်းဒီဇိုင်းအား တိကျစွာရွေးချယ်ထားပြီးမှသာ အဆိုပါဒီဇိုင်းကြောင့် ဖြစ်ပေါ်နိုင်သည့် ထိခိုက်မှုများနှင့် ထိခိုက်မှုလျော့နည်းစေမည့် အစီအမံများ ချမှတ်ရာ၌ သေချာစေမည်ဖြစ်ပါ၍ စီမံကိန်းတွင် အနီးစပ်ဆုံးအသုံးပြုမည့် dam design နှင့် အဆိုပါ တမံအမျိုးအစားကြောင့် ဖြစ်ပေါ်နိုင်သည့် ထိခိုက်နိုင်မှုများနှင့် ထိခိုက်မှုလျော့နည်းစေမည့်အစီအမံများအား Scoping report တွင်ဖော်ပြရန်၊

(ဃ) စီမံကိန်းအဆင့်အလိုက် ဆောင်ရွက်မည့် အချိန်ဇယားနှင့်ပတ်သက်၍ ခန့်မှန်းစတင်ဆောင်ရွက်မည့်အချိန်၊ ပြီးစီးမည့်အချိန်တို့အား Scoping report တွင် အနီးစပ်ဆုံး ခန့်မှန်းဖော်ပြရန်၊

(င) အခြားဆောင်ရွက်နိုင်မှုများ (Alternatives) နှင့်ပတ်သက်၍ Design Alternative ကိုသာ အခန်း(၁.၃.၂) selection of Dam Design တွင် ဖော်ပြထားပြီး စီမံကိန်းဆောင်ရွက်ရာ၌ အခြားဆောင်ရွက်နိုင်သည့် နည်းလမ်းများဖြစ်သည့် location and technology alternative များအား Scoping report တွင်ထည့်သွင်းဖော်ပြရန်၊

(စ) စီမံကိန်းနှင့်ပတ်သက်၍ ဖော်ပြထားသည့် ဓာတ်ပုံများအနက် စီမံကိန်းတည်နေရာအား ဖော်ပြသည့် ပုံ(၁.၃-၂) project location၊ ပုံ(၁.၃-၅) downstream of the dam site များမှာ အရွယ်အစား သေးငယ်လွန်းသဖြင့် စီမံကိန်းတည်နေရာအား ဖော်ပြသည့် မြေပုံအား Scoping report တွင်ဖော်ပြရန်၊

(ဆ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၅၃) အရ နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်းအစီရင်ခံစာပြုစုရာ၌ ဆောင်ရွက်မည့်လုပ်ငန်း

တာဝန်များ (TOR) မပါရှိသဖြင့် အသစ်ရေးဆွဲပြီး Scoping report တွင်ထည့်သွင်းဖော်ပြရန်၊

(ဇ) ပတ်ဝန်းကျင်ဆိုင်ရာကိစ္စရပ်များ (Description of the Environment) ဖော်ပြရာတွင် ရူပပတ်ဝန်းကျင် လက္ခဏာများ (Physical characteristics) တွင် တစ်ခုအပါအဝင်ဖြစ်သည့် seismology နှင့်ပတ်သက်၍ ပြည့်စုံစွာ ဖော်ပြရန် လိုအပ်သကဲ့သို့ Socio-Economic Characteristics တွင်လည်း ဒေသခံများ၏ Economic activities နှင့်ပတ်သက်သည့် ဒေသခံများ၏ ဝင်ငွေ၊ လူနေမှုကုန်ကျစရိတ်နှင့် အလုပ်လက်မဲ့နှုန်း စသည်တို့ ပါဝင်သော စီးပွားရေးဆိုင်ရာ အချက်အလက်များအား Scoping report တွင် ထည့်သွင်းဖော်ပြရန်၊

(ဈ) အကျဉ်းချုပ်အစီရင်ခံစာအား စာမျက်နှာ(xi-xxxi)တွင် ဖော်ပြထားသော်လည်း အင်္ဂလိပ်ဘာသာဖြင့်သာ ဖော်ပြထားသောကြောင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အပိုဒ် (၅၁)အရ နောက်တင်ပြမည့် Scoping report တွင် မြန်မာဘာသာဖြင့် ဖော်ပြရန်၊

(ည) စီမံကိန်းအဆိုပြုသူနှင့်အစိုးရအကြား လက်မှတ်ရေးထိုးထားသည့် လုပ်ငန်းဆောင်ရွက်မှုသဘောတူညီချက် သို့မဟုတ် နားလည်မှုစာချွန်လွှာများရှိပါက Scoping report တွင် ထည့်သွင်းဖော်ပြရန်၊

(ဋ) စီမံကိန်းအကြောင်း ရှင်းလင်းဖော်ပြချက် (project description) ၌ စီမံကိန်းတည်နေရာနှင့်ပတ်သက်၍ ထိခိုက်လွယ်သော ဧရိယာများ (ဥပမာ။ ကျောင်းများ၊ ရှေးဟောင်းအဆောက်အဦများ) စသည်ဖြင့် ရှင်းလင်းစွာ ဖော်ပြထားသည့် မြေပုံ မပါရှိသဖြင့် နောက်တင်မည့် Scoping report တွင် ထည့်သွင်းဖော်ပြရန်၊

(ဌ) စီမံကိန်းတည်နေရာသည် အခန်း(၅.၁) Background Geological Setting of Proposed Project Area စာမျက်နှာ(၁၂)တွင် ဖော်ပြထားချက်အရ Class III Seismic zone အတွင်း ကျရောက်လျက်ရှိခြင်းနှင့် ယခင်က ငလျင်လှုပ်ခဲ့ဖူးသည့်ဖြစ်စဉ်များကြောင့် စီမံကိန်းနှင့်ပတ်သက်သည့် အကြောင်းအရာများ ဖော်ပြရာ၌ Project Description တွင် Seismology နှင့်ပတ်သက်၍လည်းကောင်း တည်ဆောက်ရေးကာလနှင့် လုပ်ငန်းလည်ပတ်သည့်ကာလများတွင် ငလျင်ကြောင့် ဖြစ်ပေါ်နိုင်သည့် ထိခိုက်မှုများနှင့် ထိခိုက်မှုလျော့နည်းစေမည့် အစီအမံများအား Scoping report တွင် ထည့်သွင်းဖော်ပြရန်။

၃။ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်းအတွက် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာများအား စိစစ်သုံးသပ်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်း ၁၆(ဂ) အရ ကနဦးစိစစ်တွေ့ရှိချက်နှင့် သုံးသပ်အကြံပြုချက်များအား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ စိစစ်သုံးသပ်ရေးအဖွဲ့သို့ တင်ပြ၍ အပြီးသတ် စိစစ်သုံးသပ်ပြန်ကြားနိုင်ရေး ဆောင်ရွက်လျက်ရှိပါသည်။

၄။ သို့ဖြစ်ပါ၍ နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းဆိုင်ရာ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်းအတွက် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာ၌ အပိုဒ် ၂ တွင် ဖော်ပြထားသည့် လိုအပ်သည့် အချက်အလက်များအား ထပ်မံဖြည့်စွက်ရေးသားပြီး ဤဝန်ကြီးဌာနသို့ ပြန်လည်တင်ပြရန် လိုအပ်ပါကြောင်း ကနဦး သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၁၂/၈/၁၇

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

*D:\DTDA\MIC (Comment of EIA, SIA, IEE, EMP)\Water Electricity Project\Ministry of Electric and Energy\Nant Paw water electircity project (20 MW)\to Electric &Energy Ministry.doc4*

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

GREAT HOR KHAM PUBLIC CO.,LTD.

စာအမှတ် ၊ ဂဟခ/ ၇-၂ / ထွေ - ချုပ် ( ၂၆၉ )။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၇ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ **ဝန်ထမ်းနှင့် အလုပ်သမားများအတွက် စီမံထားရှိမှုများ။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မိမိတို့ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်သည် ဝန်ထမ်းနှင့် အလုပ်သမားများအတွက် အောက်ပါစီမံမှုများ ပြုလုပ်ဆောင်ရွက်ပေးပါသည်။

( ၁ ) ဝန်ထမ်းများလုပ်ငန်းခွင်တွင် အဆင်ပြေစွာ လုပ်ငန်းများလုပ်ဆောင်နိုင်ရန်အတွက် ကြို/ ပို့ ယာဉ်များ စီမံထားရှိပေးခြင်း။

( ၂ ) ဝန်ထမ်းများလုပ်ငန်းခွင်တွင် ထိခိုက်ဒဏ်ရာ မတော်တဆဖြစ်မှုများရှိခဲ့လျှင် စုပေါင်းအာမခံထားရှိပေးမှုများ စီမံထားရှိပေးခြင်း။

( ၃ ) ဝန်ထမ်းများအတွက် လူမှုဖူလုံကြေးသွင်းပေးခြင်း။

( ၄ ) ဝန်ထမ်းများ နေထိုင်/ စားသောက်မှုများ အခမဲ့စီမံထားရှိပေးခြင်း။

( ၅ ) ဝန်ထမ်းများလုပ်ငန်းခွင်ဝတ်စုံ အခမဲ့စီမံပေးခြင်း။

( ၆ ) ဝန်ထမ်းများ၏ သာရေး/နာရေးနှင့် လိုအပ်သည့် ကိစ္စရပ်များကို ကူညီစောင့်ရှောက်ပေးခြင်း။

( ၇ ) ဝန်ထမ်းများ ဗဟုသုတကြွယ်ဝစေရန်အတွက် သင်တန်းများ အခမဲ့ပို့ချပေးခြင်း။

( ၈ ) ဝန်ထမ်းများဆေးကုသရန်အတွက် အခမဲ့ဆေးခန်းများစီမံထားရှိပေးခြင်း။

( ၉ ) ဝန်ထမ်းများ၏ လိုအပ်ချက်နှင့် အခက်အခဲများသိရှိနိုင်ရန်အတွက် ဝန်ထမ်းနှင့် ဒါရိုက်တာတွေ့ဆုံပွဲများအား စီမံပေးခြင်း။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ

- ရုံးလက်ခံ။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

HOR KHAM

စာအမှတ် ၊ ဂဟာခ/ ၇-၂ / ထွေ - ချုပ် ( ၂၆၄ )။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်။

GREAT HOR KHAM PUBLIC CO.,LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ **လျှပ်စစ်ဓါတ်အား သုံးစွဲမှုအစီအမံတင်ပြခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မိမိတို့ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်သည် လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်အစိုးရ၏ ပင်မဓါတ်အားလိုင်းမှ လျှပ်စစ်ဓာတ်အားရယူသုံးစွဲမည့်အပြင် Generator ( ၂၅၀ ) KW (၁ ) လုံးဖြင့် လျှပ်စစ်ဓါတ်အားကို ရယူသုံးစွဲမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ

- ရုံးလက်ခံ။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

HOR KHAM

စာအမှတ် ၊ ဂဟခ/၇-၂/ထွေ-ချုပ် ( ၂၆၂ )။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်။

GREAT HOR KHAM PUBLIC CO.,LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ **ဝန်ထမ်းများအတွက် ဝင်ငွေခွန် (Income Tax)ပေးဆောင်ရန်တင်ပြခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မိမိတို့ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်၏ ဝန်ထမ်းများမှ တစ်နှစ်ရရှိသောလစာငွေများအား အခွန်ဥပဒေများနှင့်အညီ တစ်နှစ်လျှင် ကျပ် (၄,၈၀၀,၀၀၀)- ထက်ပို၍ရရှိသော ဝန်ထမ်းများအတွက် လစာဝင်ငွေခွန် (Salary Income Tax) ကို သက်ဆိုင်ရာမြို့နယ်အခွန် ဦးစီးဌာနသို့ ပေးသွင်းမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ
- ရုံးလက်ခံ။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

HOR KHAM

GREAT HOR KHAM PUBLIC CO.,LTD.

စာအမှတ် ၊ ဂဟာခ/၇-၂/ထွေ-ချုပ် ( ၂၆၅ )။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ **မီးဘေးကြိုတင်ကာကွယ်မှု စီမံချက်တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မိမိတို့ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်သည် လုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုအနေဖြင့် ရေဂါလံ (၅၀၀၀) ဆန့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည်ဖြစ်ပါသည်။ မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည့်အပြင် ဂါလံ (၁၅၀၀)ဆန့် ရေဘောက်ဆာကား (၁) စီးထားရှိမည်ဖြစ်ပါသည်။

၂။ ထို့ပြင် လုပ်ငန်းခွင်အတွင်း မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဦးစီးဌာနနှင့် ပူးပေါင်း၍ ဝန်ထမ်းများအား မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေး သင်တန်းများနှင့် မီးဘေးအတွက်အရေးပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများကိုလည်း စီစဉ်ဆောင်ရွက်ပေးမည်ဖြစ်ပြီး စည်းကမ်းချက်များကို ချမှတ်ထား၍ ဝန်ထမ်းများ တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထားရှိပါသည်။ လုပ်ငန်းအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ် သောက်ခြင်းကို တင်းကြပ်စွာတားမြစ်ထားရှိခြင်းနှင့် လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ

- ရုံးလက်ခံ။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com
HOR KHAM

စာအမှတ် ၊ ဂဟခ/၇-၂/ထွေ - ချုပ် ( ၂၆၆ )။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၇ ရက်။

GREAT HOR KHAM PUBLIC CO.,LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ **ရေဆိုးစွန့်ပစ်မှု မရှိစေရန်အတွက် ဝန်ခံချက်။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မိမိတို့ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်သည် နမ့်ပေါ် ရေအားလျှပ်စစ်စီမံကိန်းလုပ်ငန်းအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်လေ့လာခြင်းကို "မြန်မာစဉ်ဆက်မပြတ်ဖွံ့ဖြိုးမှု အင်ဂျင်နီယာ ဝန်ဆောင်မှုကုမ္ပဏီလီမိတက်" နှင့် လုပ်ဆောင်လျက်ရှိသည်နှင့်အညီ လုပ်ငန်းမှထွက်ရှိလာသော ရေဆိုးများနှင့် အမှိုက်များကို စနစ်တကျစွန့်ပစ်ရန် စီစဉ်ထားရှိပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ

- ရုံးလက်ခံ။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

HOR KHAM

GREAT HOR KHAM PUBLIC CO.,LTD.

စာအမှတ် ၊ ဂဟခ/ ၇-၂ / ထွေ - ချုပ် ( ၂၆၈ )။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ **လူမှုဝန်းကျင်ဆိုင်ရာ ပူးပေါင်းတာဝန်ယူမှု Corporate Social Responsibility (CSR) အတွက် ဆောင်ရွက်မည့်အစီအစဉ်များအား တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မိမိတို့ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်သည် နမ့်ပေါ် ရေအားလျှပ်စစ်စီမံကိန်းကို ဝန်ကြီးဌာန၏ လမ်းညွှန်မှုနှင့်အညီ ၂၀၁၃ ခုနှစ်တွင် စီမံကိန်းဖြစ်မြောက်နိုင်စွမ်းကို စတင်စူးစမ်းလေ့လာခဲ့ပါသည်။

၂။ မိမိတို့ ကုမ္ပဏီစတင်တည်ထောင်စဉ်ကတည်းကပင် CSR လုပ်ငန်းများကိုဆောင်ရွက်လာခဲ့ပါသည်။ ကုမ္ပဏီ၏ လူမှုဝန်းကျင်ဆိုင်ရာ ပူးပေါင်းတာဝန်ယူမှုမူဝါဒ (CSR) အရ ပညာရေး၊ ကျန်းမာရေး၊ အခြေခံအဆောက်အအုံ စသည့် ကဏ္ဍ ၃ ရပ်ကို ဦးစားပေး ကူညီပံ့ပိုးသွားမည်ဖြစ်ပါသည်။ ကုမ္ပဏီသည် လူမှုဝန်းကျင်ဆိုင်ရာအတွက် နှစ်စဉ်ရရှိသော အသားတင်အမြတ်ငွေမှ ၁% အား သုံးစွဲသွားမည် ဖြစ်ပါသည်။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ

- ရုံးလက်ခံ။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com
HOR KHAM

GREAT HOR KHAM PUBLIC CO.,LTD.

စာအမှတ် ၊ ဂဟခ/၇-၂/ထွေ - ချုပ် ( ၂၆၃ )။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ **လုပ်ငန်းသဘာဝရှင်းလင်းချက်။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မိမိတို့ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်သည် နမ့်ပေါ် ရေအားလျှပ်စစ်စီမံကိန်းကို ဝန်ကြီးဌာန၏လမ်းညွှန်မှုနှင့်အညီ ၂၀၁၃ ခုနှစ်တွင် စီမံကိန်းဖြစ်မြောက်နိုင်စွမ်းကို စတင်စူးစမ်းလေ့လာခဲ့ပါသည်။

၂။ နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းသည် ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်၏လက်ရှိ ရင်းနှီးမြှုပ်နှံမှုစီမံကိန်းထဲတွင် အဓိကအရေးပါသည့် စီမံကိန်းတစ်ခုဖြစ်သည်။ ကုမ္ပဏီသည် ရေအားလျှပ်စစ်တွင် အဓိကထားပြီးရင်းနှီးမြှုပ်နှံရခြင်းရည်ရွယ်ချက်များမှာ ဒေသခံများအတွက် အလုပ်အကိုင် အခွင့်အလမ်းများရရှိစေရန်၊ ဒေသဖွံ့ဖြိုးတိုးတက်စေရေးနှင့် နိုင်ငံတော်လျှပ်စစ်ဓါတ်အား ဖူလုံရေးအတွက် အထောက်အကူပြုနိုင်ရန် တို့ဖြစ်ပါသည်။

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ -
- ရုံးလက်ခံ။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

GREAT HOR KHAM PUBLIC CO.,LTD.

စာအမှတ် ။ ဂဟခ/ ၇-၂/ ထွေ-ချုပ်( ၂၉၆ )။
ရက်စွဲ ။ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ( ၇ ) ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ ။ ။ **နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း၏ တမံဧရိယာအတွင်းမှ တောင်သူများအား သီးနှံလျော်ကြေးကိစ္စများ ဆောင်ရွက်ပြီးစီးခြင်း၊ ရေလွှမ်းဧရိယာအတွင်းမှ တောင်သူများနှင့် ညှိနှိုင်းသဘောတူညီမှုရယူပြီး၍ မြေယာလျော်ကြေးအတွက် ညှိနှိုင်းဆောင်ရွက်ခြင်းကိစ္စများအား လုပ်ဆောင်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မိမိတို့ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီ လီမိတက်မှ ဖော်ဆောင်သောစီမံကိန်းတွင် ရေအားလျှပ်စစ်ထုတ်လုပ်ရန်အလို့ငှါ တည်ဆောက်မည့်ဆည်တမံ၏ ရေပြည့်အမှတ်သည် ပင်လယ်ရေမျက်နှာပြင် (၈၀၅) မီတာဖြစ်ပြီး အသားတင်ရေအမြင့်သည် (၃၈.၇၅) မီတာ ဖြစ်ပါသည်။ ထို့အတွက် ရေလွှမ်းဧရိယာစုစုပေါင်းမှာ (၈၇၄.၁၇၄) ဧကရှိပါသည်။ အဆိုပါရေလွှမ်းဧရိယာ အတွင်းတွင်

- မူလချောင်းရေဧရိယာ (၂၂၅.၀၉၅) ဧက
- စိုက်ပျိုးမြေဧရိယာ (၁၅၄.၅၁၇) ဧက
- မြေလွတ် မြေရိုင်းနှင့် အခြားမြေဧရိယာ (၄၉၄.၅၆၂) ဧက

စသည်ဖြင့် အသီးသီးရှိကြပြီး အဆိုပါဧရိယာအတွင်းတွင် ကျေးရွာမြေနှင့် လူနေအိမ်ခြေများ လုံးဝမပါရှိပါကြောင်း တင်ပြအပ်ပါသည်။

၂။ နိုင်ငံတော်သို့ စီမံကိန်းအဆိုပြုလွှာတင်ပြပြီးနောက်ပိုင်း စီမံကိန်းအား အဆင်ပြေချောမွေ့စွာ ဆောင်ရွက်နိုင်ရေးအတွက် ရေလွှမ်းဧရိယာနှင့် စီမံကိန်းဧရိယာအတွင်းရှိကျေးရွာများမှ တောင်သူများထံသို့ စီမံကိန်းဆိုင်ရာအချက်အလက်များအား တွေ့ဆုံရှင်းလင်းတင်ပြခြင်း၊ သဘောထားအမြင်များရယူခြင်း၊ အဓိက သက်ဆိုင်သူများ အစည်းအဝေးကျင်းပခြင်း၊ ထိခိုက်စိုက်ပျိုးမြေများအား တိုင်းတာအတည်ပြုခြင်း၊ သီးနှံလျော်ကြေး/ မြေယာလျော်ကြေးကိစ္စများ ဆောင်ရွက်နိုင်ရေးအတွက် ညှိနှိုင်းဆွေးနွေးခြင်း၊ တမံဧရိယာအတွင်းရှိ တောင်သူများအား သီးနှံလျော်ကြေးပေးအပ်ခြင်း စသည်တို့ကို အောက်ပါအတိုင်း ဆောင်ရွက်ခဲ့ရပါသည်။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

(က) တမံအထက်ပိုင်းရှိ ဒေသခံပြည်သူများအား စီမံကိန်းအဆိုပြုပုံစံများရှင်းလင်းတင်ပြခြင်းနှင့် သဘောထားခံယူခြင်း

၁၅-၂-၂၀၁၄ ရက်နေ့တွင် မိမိတို့ကုမ္ပဏီမှ တမံအထက်ပိုင်းရှိ ကျေးရွာများဖြစ်သော မော်တောင်းကျေးရွာ၊ တာလုံကျေးရွာ၊ ခိုခေကျေးရွာ၊ ခိုတိန်ကျေးရွာ၊ မန်ညှ(မန့်လျှို့)ကျေးရွာ၊ နားမွန်းကျေးရွာ၊ ကောင်းဝှက်ကျေးရွာ၊ မန်းဟန်ကျေးရွာ၊ နမ့်ဖာတန်းကျေးရွာ၊ နမ့်အွမ်ကျေးရွာ၊ မန့်ဟောင်းကျေးရွာ၊ ပန်တောင်ကျေးရွာ၊ ကောင်းခါးကျေးရွာ စသည့်ကျေးရွာများတွင် နေထိုင်ကြသော ဒေသခံပြည်သူများကို မော်တောင်းကျေးရွာဘုန်းကြီးကျောင်းဝင်းအတွင်းရှိ ကျေးရွာလူငယ်ဇရပ်သို့ ဖိတ်ခေါ်၍

- စီမံကိန်းဖော်ဆောင်ရာတွင် ဒေသဖွံ့ဖြိုးရေးလုပ်ငန်းအတွက် အထောက်အကူပြုစေရန်
- စီမံကိန်းဖော်ဆောင်ရာတွင် ဒေသခံပြည်သူလူထုအတွက် အလုပ်အကိုင်အခွင့်အလမ်းပိုမိုရရှိစေရန်
- စီမံကိန်းရင်းနှီးမြှုပ်နှံဖော်ဆောင်ရာတွင် ဒေသခံပြည်သူလူထုမှ ပါဝင်ရင်းနှီးမြှုပ်နှံခွင့်ရရှိစေရန်

စသည့်ရည်ရွယ်ချက်များဖြင့် နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းနှင့် သက်ဆိုင်သည့် အချက်အလက်များနှင့် စီမံကိန်းအဆိုပြုပုံစံတို့ကို ရှင်းလင်းတင်ပြခဲ့ပြီး ဒေသခံပြည်သူများ သိရှိလိုသည့်အချက်များကို ဖြေကြားပေးခဲ့ပါသည်။ ထို့နောက် စီမံကိန်းဖော်ဆောင်နိုင်ရေးအတွက် သဘောထားတောင်းခံရာတွင် ဒေသခံပြည်သူများက စီမံကိန်းအပေါ်သဘောတူထောက်ခံကြိုဆိုကြပါကြောင်း ဝိုင်းဝန်းသဘာထား မှတ်ချက်ပေးခဲ့ကြပါသည်။

(ခ) တမံဧရိယာအတွင်းမှ တောင်သူများနှင့် သီးနှံလျော်ကြေးကိစ္စများ ညှိနှိုင်းပေးအပ်ခြင်း

တမံဧရိယာအတွင်း စိုက်ပျိုးလုပ်ကိုင်ခဲ့ကြသော တောင်သူဦးရေမှာ (၉)ဦးရှိပါသည်။ စီမံကိန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်းပြီး ၎င်းတို့၏ ထိခိုက်နစ်နာမှုများအား လျော်ကြေးကိစ္စများစီစဉ်ဆောင်ရွက်ပေးနိုင်ရန်အတွက် ခရိုင်မြေယာလျော်ကြေးစိစစ်ရေးအဖွဲ့၊ သက်ဆိုင်ရာတောင်သူများနှင့် မိမိတို့ကုမ္ပဏီမှ တာဝန်ရှိသူများသည် ခရိုင်အုပ်ချုပ်ရေးမှူးရုံးတွင် (၁၃-၁-၂၀၁၅)ရက်နေ့၌ ပထမအကြိမ်အဖြစ်လည်းကောင်း၊ (၇-၄-၂၀၁၅)ရက်နေ့၌ ဒုတိယအကြိမ်အဖြစ်လည်းကောင်း ၎င်းတို့စိုက်ပျိုးထားကြသော သီးနှံပင်အမျိုးအစားနှင့် သက်တမ်းများအလိုက် လျော်ကြေးပေးအပ်ရမည့်နှုန်းထားများကို အပြန်ပြန်အလှန်လှန် ညှိနှိုင်းဆွေးနွေးသတ်မှတ်ခဲ့ကြပါသည်။ ထို့နောက် (၂၈-၄-၂၀၁၅)ရက်နေ့တွင် အဆိုပါတောင်သူများအား သီးနှံလျော်ကြေးများကို ထိုက်ထိုက်တန်တန်ပေးအပ်နိုင်ခဲ့ပါသည်။

(ဂ) တမံအထက်ပိုင်းကျေးရွာများ၏ အဓိကသက်ဆိုင်သူများ အစည်းအဝေးကျင်းပခြင်း

၃-၅-၂၀၁၅ ရက်နေ့တွင် မိမိတို့ကုမ္ပဏီနှင့် ESIA လုပ်ငန်းဆောင်ရွက်ပေးသည့် မြန်မာစဉ်ဆက်မပြတ်ဖွံ့ဖြိုးမှု အင်ဂျင်နီယာဝန်ဆောင်မှုကုမ္ပဏီ ( MSDES ) တို့မှ တမံအထက်ပိုင်းကျေးရွာများ ဖြစ်သော မော်တောင်းကျေးရွာ၊ တာလုံကျေးရွာ၊ ခိုခေကျေးရွာ၊ ခိုတိန်ကျေးရွာ၊ မန်ညှ(မန့်လျှို့)ကျေးရွာ၊ နားမွန်းကျေးရွာ၊ ကောင်းဝှက်ကျေးရွာ၊ မန်းဟန်ကျေးရွာ၊ နမ့်ဖာတန်းကျေးရွာ၊ နမ့်အွမ်ကျေးရွာ၊ မန့်ဟောင်းကျေးရွာ၊ ပန်တောင်ကျေးရွာ၊ ကောင်းခါးကျေးရွာ၊ မလွန်ပန်ခါးကျေးရွာ စသည့်ကျေးရွာ များတွင် နေထိုင်ကြသော ကျေးရွာအုပ်ချုပ်ရေးတာဝန်ရှိသူများ၊ ကျေးရွာဒေသခံပြည်သူများကို တာလုံကျေးရွာ ဘုန်းကြီးကျောင်းဝင်းအတွင်းရှိ ကျေးရွာ လူငယ်ဇရပ်သို့ ဖိတ်ခေါ်၍

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com
HOR KHAM

- စီမံကိန်းအကောင်အထည်ဖော်မှု ရည်ရွယ်ချက်နှင့် လုပ်ငန်းစဉ်များ၊ လူမှုနှင့် သဘာဝ ပတ်ဝန်းကျင် အကျိုးသက်ရောက်မှု ဆန်းစစ်လေ့လာခြင်းရည်ရွယ်ချက်နှင့် လုပ်ငန်းစဉ်များကို ပွင့်လင်းမြင်သာစွာ ချပြရန်
- စီမံကိန်းအကောင်အထည်ဖော်မှုနှင့်စပ်လျဉ်းပြီး ဒေသခံပြည်သူလူထု၏အမြင်၊ သဘောထားနှင့် အကြံပြုချက်များရယူရန်
- နိုင်ငံတော်အကျိုးပြုစီမံကိန်းလုပ်ငန်းများတွင် ပြည်သူလူထုမှ ပူးပေါင်းပါဝင်လာစေရန်

စသည့်ရည်ရွယ်ချက်များဖြင့် စီမံကိန်းအကျိုးသက်ရောက်မှု အကြောင်းချင်းရာများကို ဒေသခံပြည်သူလူထုနှင့် ပွင့်လင်းမြင်သာစွာ သွားရောက်ဆွေးနွေးခဲ့ပါသည်။ ထိုသို့တွေ့ဆုံဆွေးနွေးရာတွင် မိမိတို့ကုမ္ပဏီမှ စီမံကိန်းရင်းနှီးမြှုပ်နှံမှုဆိုင်ရာများ၊ ဖြစ်နိုင်ခြေစူးစမ်းလေ့လာမှုလုပ်ငန်းဆိုင်ရာများနှင့် စီမံကိန်းဖော်ဆောင်ရေးအစီအစဉ်များကိုလည်းကောင်း၊ တတိယအဖွဲ့အစည်းဖြစ်သည့် MSDES မှ လူမှုဝန်းကျင်နှင့် သဘာဝပတ်ဝန်းကျင် အကျိုးသက်ရောက်မှု လေ့လာဆန်းစစ်ခြင်းလုပ်ငန်းဆိုင်ရာများ၊ လူမှုစီးပွားဆိုင်ရာ ပူးပေါင်းကူညီဆောင်ရွက်မှုဆိုင်ရာများ၊ ရေအားလျှပ်စစ်ဆည်တမံတည်ဆောက်ခြင်းနှင့် စပ်လျဉ်းသည့် ကောင်းကျိုး ဆိုးကျိုးဆိုင်ရာများနှင့် ထိခိုက်မှုလျော့နည်းစေရေးအစီအမံဆိုင်ရာများကိုလည်းကောင်း ဒေသခံပြည်သူလူထုသို့ ထင်သာမြင်သာမှုရှိစွာနှင့် ပွင့်လင်းမြင်သာစွာ ရှင်းလင်းတင်ပြခဲ့ပါသည်။ ထို့နောက် ဆက်လက်၍ ဒေသခံပြည်သူများမှ ၎င်းတို့သိလိုသည့်အချက်များကိုလည်း ရင်းရင်းနှီးနှီး ဖြေကြားရှင်းလင်းပေးခဲ့ပြီး ၎င်းတို့ထံမှ စီမံကိန်းလုပ်ငန်းစဉ်အတွက် အမြင်သဘောထားများ၊ အကြံပြုချက်များ စသည်တို့ကို တောင်းခံနိုင်ခဲ့ပါသည်။

(ဃ) <u>ရေလွှမ်းဧရိယာအတွင်းကျရောက်နေသော စိုက်ပျိုးမြေများအား တိတိကျကျသိရှိစေရန် သက်ဆိုင်ရာတောင်သူများနှင့် ကွင်းဆင်းတိုင်းတာခြင်း</u>

၁၅-၆-၂၀၁၅ မှ ၁၀-၇-၂၀၁၅ ရက်နေ့အတွင်း မြို့နယ် မြေယာတိုင်းတာစိစစ်ရေးအဖွဲ့၊ ရေလွှမ်းဧရိယာစိုက်ပျိုးမြေမှ ကျေးရွာရပ်မိရပ်ဖများ၊ သက်ဆိုင်ရာတောင်သူများနှင့်တကွ မိမိတို့ကုမ္ပဏီတာဝန်ရှိသူများသည် အကြေအလည်တွေ့ဆုံညှိနှိုင်းဆွေးနွေးကြပြီး မော်တောင်းကျေးရွာအုပ်စုနှင့် နမ့်အွမ်ကျေးရွာအုပ်စုအတွင်းမှ ရေလွှမ်းဧရိယာအတွင်းကျရောက်လျက်ရှိသော စိုက်ပျိုးမြေများ၏ အမျိုးအစား၊ အတိုင်းအတာတို့ကို သေချာတိကျစွာသိရှိနိုင်စေရန် အားလုံးအတူတကွပူးပေါင်း၍ သေချာစွာစနစ်တကျကွင်းဆင်းတိုင်းတာနိုင်ခဲ့ပါသည်။ ကွင်းဆင်းတိုင်းတာအတည်ပြုချက်များအရ စိုက်ပျိုးမြေဧရိယာစုစုပေါင်းမှာ (၁၅၄.၅၁)ဧကဖြစ်ပြီး စိုက်ပျိုးမြေအမျိုးအစားများအနေဖြင့် လယ်မြေ (၇၄.၄၆)ဧက၊ ယာမြေ (၇၃.၉၆)ဧကနှင့် ဥယျာဉ်ခြံမြေ (၆.၀၉)ဧက အသီးသီးရှိကာ စိုက်ပျိုးတောင်သူဦးရေပေါင်း (၇၁)ဦး ရှိပါသည်။

(င) <u>တမံအထက်ပိုင်းရှိ တောင်သူများနှင့် မြေယာလျော်ကြေးကိစ္စ ဆွေးနွေးခြင်း</u>

၁၂-၅-၂၀၁၆ ရက်နေ့တွင် မူဆယ်ခရိုင်အုပ်ချုပ်ရေးမှူးရုံး၌ ခရိုင် မြေယာလျော်ကြေးစိစစ်ရေး အဖွဲ့၊ ကျေးရွာအုပ်ချုပ်ရေးအဖွဲ့များ၊ ရေလွှမ်းဧရိယာအတွင်းရှိ စိုက်ပျိုးမြေများ၏ တောင်သူများနှင့် မိမိတို့ကုမ္ပဏီမှတာဝန်ရှိသူများသည် သက်ဆိုင်ရာတောင်သူများထံသို့ မြေယာလျော်ကြေးကိစ္စများ ဆောင်ရွက်နိုင်ရေးအတွက် ပထမအကြိမ် ညှိနှိုင်းဆွေးနွေးခဲ့ကြရပြီးဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

GREAT HOR KHAM PUBLIC COMPANY LIMITED
KL-15, Pyihtaungsu Road, Kaungmuloi Quarter, Muse, Shan State, Myanmar
Tel: +95-(0) 82-52266, +95-(0) 82-52551. E-mail: info@greathorkham.com

၃။ သို့ဖြစ်ပါ၍ စီမံကိန်းအတွက် ရေလွှမ်းဧရိယာအတွင်းမှ စိုက်ပျိုးတောင်သူများနှင့် တွေ့ဆုံညှိနှိုင်းသဘောတူညီမှုများ ရရှိထားပြီးဖြစ်ကြောင်းနှင့် ဆက်လက်၍ ခရိုင် မြေယာလျော်ကြေးစိစစ်ရေးအဖွဲ့၏ လမ်းညွှန်မှုကို ခံယူကာ တောင်သူများနှင့် လိုအပ်သလိုထပ်မံညှိနှိုင်းဆွေးနွေးလျက် မြေယာလျော်ကြေးပေးအပ်နိုင်ရေးကို စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုလျက် အောက်ပါအချက်အလက်များကို ပူးတွဲတင်ပြအပ်ပါသည်။

ပူးတွဲ -

- နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း ရေလွှမ်းဧရိယာအနေအထားပြမြေပုံ
- ရေလွှမ်းဧရိယာအတွင်းရှိ စိုက်ပျိုးမြေစာရင်း
- ရေလွှမ်းဧရိယာအတွင်းရှိ စိုက်ပျိုးမြေနေရာပြကောင်းကင်မြေပုံ
- တမံဧရိယာအတွင်းရှိတောင်သူများအား သီးနှံလျော်ကြေးပေးအပ်မှု မှတ်တမ်းဓာတ်ပုံများ
- ဒေသခံပြည်သူများနှင့် တွေ့ဆုံဆွေးနွေးခဲ့သော မှတ်တမ်းဓာတ်ပုံများ

လေးစားစွာဖြင့်

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ
ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်

မိတ္တူ

- ရုံးလက်ခံ။

ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း

# ရေလွှမ်းဧရိယာအနေအထားပြမြေပုံ



ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်၊ မူဆယ်မြို့
နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း
ရေလွှမ်းဧရိယာအတွင်းရှိ တောင်သူများ၏ ထိခိုက်မည့် စိုက်ပျိုးမြေစာရင်း

| စဉ် | တောင်သူအမည် | ကွင်းအမှတ် | ဦးပိုင်အမှတ် | ဧရိယာ (ဧက) | | | | ပိုင်ဆိုင်မှု အထောက်အထား ရှိ/မရှိ | | နေရပ်လိပ်စာ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | လယ် | ယာ | ဥယျာဉ် | ပေါင်း | ပုံစံ(၇) | မြေခွန် ပြေစာ | | |
| | | | | | | | | | | | |
| | မော်တောင်း | | | ၄၄.၄၃ | ၅၀.၂၃ | ၆.၀၉ | ၁၀၀.၇၅ | | | | |
| | | | | | | | | | | | |
| | နမ့်အွမ် | | | ၃၀.၀၃ | ၂၃.၇၃ | | ၅၃.၇၆ | | | | |
| | | | | | | | | | | | |
| | | | | | | | | | | | |
| | | | | | | | | | | | |
| | စုစုပေါင်း | | | ၇၄.၄၆ | ၇၃.၉၆ | ၆.၀၉ | ၁၅၄.၅၁ | | | | |

(Sai Yi Mon)
Admin Director
GREAT HOR KHAM PUBLIC Co., Ltd.

စိုင်းထွန်းစိန်
ကျေးရွာအုပ်ချုပ်ရေးမှူး
နမ့်အွမ်ကျေးရွာအုပ်စု၊ မူဆယ်မြို့နယ်

ကျော်ခိုင်
အုပ်ချုပ်ရေးမှူး
မော်တောင်းကျေးရွာအုပ်စု
မူဆယ်မြို့နယ်

ဦး စိုး အ ရာ ရှိ
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
မူ ဆ ယ် မြို့ ။

E:\GreatHorKhan\Book1Book1Sheet3

ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်၊ မူဆ မြို့

နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း

ရေလွှမ်းဧရိယာအတွင်းရှိ တောင်သူများ၏ ထိခိုက်မည့် စိုက်ပျိုးမြေစာရင်း

မော်တောင်းကျေးရွာအုပ်စု

| စဉ် | တောင်သူအမည် | ကွင်းအမှတ် | ဦးပိုင်အမှတ် | ဧရိယာ (ဧက) | | | | ပိုင်ဆိုင်မှု အထောက်အထား ရှိ/ မရှိ | | နေရပ်လိပ်စာ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | လယ် | ယာ | ဥယျာဉ် | ပေါင်း | ပုံစံ(၇) | မြေခွန် ပြေစာ | | |
| ၁ | ဦးစိုင်းကျော် | ပြင်ပ | | | | ၁. ၂၆ | ၅. ၈၇ | မရှိ | မရှိ | တာလုံ | |
| | | | | ၃. ၄၂ | | | | | | | |
| | | | | ၀. ၃၀ | | | | | | | |
| | | | | ၀. ၈၉ | | | | | | | |
| ၂ | ဦးကြည်ဝင်း | ပြင်ပ | | ၇. ၀၄ | | | ၁၁. ၆၉ | | | ဈေးရပ်ကွက် | မြေလွတ်မြေရိုင်းလုပ်ကိုင်ခွင့်ရမြေ |
| | | | | | | ၄. ၆၅ | | | | | |
| ၃ | ဦးအိုက်သိန်းကျော် | ပြင်ပ | | ၀. ၃၄ | | | ၀. ၃၄ | မရှိ | မရှိ | တာလုံ | |
| ၄ | ဦးအေပူး | ပြင်ပ | | | | ၀. ၁၈ | ၀. ၁၈ | မရှိ | မရှိ | တာလုံ | |
| ၅ | ဒေါ်မနု | ပြင်ပ | | ၂. ၇၆ | | | ၂. ၇၆ | မရှိ | ရှိ | တာလုံ | |
| ၆ | ဦးအိုက်ကော်ခမ်း | ပြင်ပ | | ၁. ၁၇ | | | ၁. ၅၄ | မရှိ | မရှိ | တာလုံ | |
| | | | | | ၀. ၃၇ | | | | | | |
| ၇ | ဦးစိုင်းသန်းမောင် | ပြင်ပ | | | ၀. ၃၉ | | ၀. ၃၉ | မရှိ | မရှိ | တာလုံ | |
| ၈ | ဦးအိုက်ခမ်းဝါ | ပြင်ပ | | ၀. ၃၀ | | | ၀. ၃၀ | မရှိ | မရှိ | တာလုံ | |
| ၉ | ဦးအေဆိုင် | ပြင်ပ | | ၁. ၅၈ | | | ၁. ၅၈ | မရှိ | မရှိ | တာလုံ | |

ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်၊ မူဆယ်မြို့

နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း

ရေလွှမ်းဧရိယာအတွင်းရှိ တောင်သူများ၏ ထိခိုက်မည့် စိုက်ပျိုးမြေစာရင်း

မော်တောင်းကျေးရွာအုပ်စု

| စဉ် | တောင်သူအမည် | ကွင်းအမှတ် | ဦးပိုင်အမှတ် | ဧရိယာ (ဧက) လယ် | ယာ | ဥယျာဉ် | ပေါင်း | ပိုင်ဆိုင်မှု အထောက်အထား ရှိ/ မရှိ ပုံစံ(၇) | မြေခွန် ပြေစာ | နေရပ် လိပ်စာ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁၀ | ဦးမာဂမ် | ပြင်ပ | | ၀.၅၉ | | | ၃.၅၁ | မရှိ | မရှိ | တာလုံ | |
| | | | | ၂.၀၇ | | | | | | | |
| | | | | | ၀.၈၅ | | | | | | |
| ၁၁ | ဦးအိုက်အောင်ဝင်း | ပြင်ပ | ၂၁ | ၂.၃၆ | | | ၃.၀၈ | မရှိ | ရှိ | တာလုံ | |
| | | | | | ၀.၇၂ | | | | | | |
| ၁၂ | ဦးအိုက်ဆမ်(ထမ်းဟောင်း) | ပြင်ပ | ၂၀ | ၂.၈၂ | | | ၃.၇၂ | မရှိ | ရှိ | တာလုံ | |
| | | | | | ၀.၇၁ | | | | | | |
| | | | | | ၀.၁၉ | | | | | | |
| ၁၃ | ဦးအိုက်စိုး | ပြင်ပ | ၁၈ | ၄.၁၄ | | | ၅.၆၁ | မရှိ | ရှိ | တာလုံ | |
| | | | | | ၁.၄၇ | | | | | | |
| ၁၄ | ဦးမိုင်ဆိုင်(တုံခန်ဆန်စက်) | ပြင်ပ | | ၂.၆၂ | | | ၂.၈၇ | မရှိ | မရှိ | တာလုံ | |
| | | | | ၀.၂၅ | | | | | | | |
| ၁၅ | ဆရာဂမ်(မုံးပေါ်) | ပြင်ပ | ၁၇ | ၂.၉၆ | | | ၂.၉၆ | မရှိ | ရှိ | ကောင်းနောင် ရပ်ကွက် | |
| ၁၆ | ဦးစိုင်းအိုက်ဆိုင်အောင် | ပြင်ပ | | | ၀.၄၀ | | ၀.၇၂ | မရှိ | မရှိ | တာလုံ | |
| | | | | | ၀.၃၂ | | | | | | |

ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမီတက်၊ မူခ ်မြို့

နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း

ရေလွှမ်းဧရိယာအတွင်းရှိ တောင်သူများ၏ ထိခိုက်မည့် စိုက်ပျိုးမြေစာရင်း

မော်တောင်းကျေးရွာအုပ်စု

| စဉ် | တောင်သူအမည် | ကွင်းအမှတ် | ဦးပိုင်အမှတ် | ဧရိယာ (ဧက) လယ် | ယာ | ဥယျာဉ် | ပေါင်း | ပိုင်ဆိုင်မှု အထောက်အထား ရှိ/ မရှိ ပုံစံ(၇) | မြေခွန် ပြေစာ | နေရပ်လိပ်စာ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁၇ | ဦးအိုက်ဝင်း | ပြင်ပ | | ၁. ၄၉ | | | ၂. ၈၄ | မရှိ | မရှိ | တာလုံ | |
| | | | | | ၀. ၉၈ | | | | | | |
| | | | | | ၀. ၃၇ | | | | | | |
| ၁၈ | ဦးမာတွတ် | ၁၇၁ | ၁၁ | ၂. ၃၅ | | | ၃. ၂၄ | မရှိ | ရှိ | တာလုံ | |
| | | | | ၀. ၇၄ | | | | | | | |
| | | | | ၀. ၁၅ | | | | | | | |
| ၁၉ | ဦးဆန်ကို | ပြင်ပ | | ၀. ၁၆ | | | ၂. ၁၃ | မရှိ | မရှိ | တာလုံ | |
| | | | | ၁. ၉၇ | | | | | | | |
| ၂၀ | ဦးစိုင်းဆန်ပွဲ | ပြင်ပ | | | ၀. ၀၈ | | ၀. ၁၈ | မရှိ | မရှိ | တာလုံ | |
| | | | | | ၀. ၁၀ | | | | | | |
| ၂၁ | ဒေါ်အေးစိုး | ပြင်ပ | | | ၀. ၄၁ | | ၀. ၇၉ | မရှိ | ရှိ | တာလုံ | |
| | | | | | ၀. ၂၁ | | | | | | |
| | | | | | ၀. ၁၇ | | | | | | |
| ၂၂ | ဦးအိုက်သန်း | ပြင်ပ | | | ၀. ၅၆ | | ၁. ၆၆ | မရှိ | မရှိ | တာလုံ | |
| | | | | | ၀. ၁၆ | | | | | | |
| | | | | | ၀. ၉၄ | | | | | | |

ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်၊ မူဆ [illegible] မြို့

နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း

ရေလွှမ်းဧရိယာအကွင်းရှိ တောင်သူများ၏ ထိခိုက်မည့် စိုက်ပျိုးမြေစာရင်း

မော်တောင်းကျေးရွာအုပ်စု

| စဉ် | တောင်သူအမည် | ကွင်း အမှတ် | ဦးပိုင် အမှတ် | ဧရိယာ (ဧက) | | | | ပိုင်ဆိုင်မှု အထောက်အထား ရှိ/ မရှိ | | နေရပ် လိပ်စာ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | လယ် | ယာ | ဥယျာဉ် | ပေါင်း | ပုံစံ(၇) | မြေခွန် ပြေစာ | | |
| ၂၃ | ဦးအိုက်လှိုင်း | ပြင်ပ | | | ၁. ၈၄ | | ၂. ၈၄ | မရှိ | မရှိ | တာလုံ | |
| | | | | | ၀. ၃၉ | | | | | | |
| | | | | | ၀. ၆၁ | | | | | | |
| ၂၄ | ဦးထွန်းကြည် | ပြင်ပ | | | ၁. ၈၉ | | ၁. ၈၉ | မရှိ | မရှိ | တာလုံ | |
| ၂၅ | ဦးအိုက်ဆန်ထွန်း | ပြင်ပ | | | ၁. ၃၅ | | ၁. ၃၅ | မရှိ | မရှိ | တာလုံ | |
| ၂၆ | ဦးအိုက်စိုးကျော် | ပြင်ပ | | | ၀. ၇၃ | | ၀. ၇၃ | မရှိ | မရှိ | တာလုံ | |
| ၂၇ | ဦးအိုက်အောင်ခမ်း | ပြင်ပ | | | ၁. ၃၈ | | ၁. ၆၀ | မရှိ | မရှိ | တာလုံ | |
| | | | | | ၀. ၁၁ | | | | | | |
| | | | | | ၀. ၁၁ | | | | | | |
| ၂၈ | ဦးအိုက်မြင့်ဦး | ပြင်ပ | | | ၀. ၀၆ | | ၀. ၁၅ | မရှိ | မရှိ | တာလုံ | |
| | | | | | ၀. ၀၉ | | | | | | |
| ၂၉ | ဦးဆန်ငင်း+ဦးထွန်းဝင်း | ပြင်ပ | | | ၁. ၁၉ | | ၁. ၁၉ | မရှိ | မရှိ | မော်တောင်း | |
| ၃၀ | ဒေါ်ခမ်းထွန်း | ပြင်ပ | | | ၁. ၀၀ | | ၁. ၀၀ | မရှိ | မရှိ | မော်တောင်း | |
| ၃၁ | ဦးလှိုင်းပန် | ပြင်ပ | | | ၁. ၁၄ | | ၁. ၁၄ | မရှိ | မရှိ | နမ့်ဖာတန်း | |
| ၃၂ | ဦးအိုက်ဆိ | ပြင်ပ | | | ၃. ၅၀ | | ၆. ၀၀ | မရှိ | မရှိ | မော်တောင်း | |
| | | | | | ၂. ၅၀ | | | | | | |

## အခန်း(၄)

## တာဝန်ဝတ္တရားများ

### ၄-၁ "စာချုပ်ဝင် (က)" ၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

၄-၁-၁ ဤသဘောတူစာချုပ်အရ **"စာချုပ်ဝင် (ခ)"** ၏ စက်ရုံရှိ ဓာတ်အားပေးစက်များမှ ထုတ်လုပ်သော လျှပ်စစ်စွမ်းအားပမာဏကို ရယူရာတွင် ဓာတ်အားစနစ်ကွပ်ကဲရေးဌာနသည် ဓာတ်အားစနစ်၏ကြိမ်နှုန်းကို ထိန်းသိမ်းကွပ်ကဲရန်အတွက် နမ့်ပေါ်ရေအားလျှပ်စစ်မှ ဓာတ်အားပေးစက်များတွင် (စက်အင်အား၏ ၁၅% အတွင်း) အသင့်မောင်းထားပြီး ချက်ချင်း ဓာတ်အားတိုးထုတ်နိုင်သော Spinning Reserve ထားရှိရန် စီစဉ်ဆောင်ရွက်နိုင်သည်။ ၎င်းအား ဆောင်ရွက်ရန် ဓာတ်အားစနစ်ကွပ်ကဲရေးဌာနသည် မူဆယ်ဓာတ်အားခွဲရုံမှတဆင့် နမ့်ပေါ် ရေအားလျှပ်စစ် ဓာတ်အားပေးစက်ရုံအား ထိန်းသိမ်းမောင်းနှင်သူများနှင့် တိုက်ရိုက်ဆက်သွယ်နိုင်သည်။

၄-၁-၂ **"စာချုပ်ဝင် (ခ)"** ၏ ဓာတ်အားပေးစက်ရုံ ကာလကြာရှည် စိတ်ချတည်ငြိမ်စွာ လည်ပတ်နိုင်ရေး၊ စက်ပစ္စည်းများကို ကြံခိုင်စွာထိန်းသိမ်းနိုင်ရေးကိုရှေးရှုပြီး ဓာတ်အားစနစ်ကွပ်ကဲရေးဌာနသည် ဓာတ်အားပေးစက်ရုံ၏ စက်တစ်လုံးစီက အနည်းဆုံး (     ) မဂ္ဂါဝပ် လည်ပတ်ထုတ်လုပ် နိုင်စေရေး ထိန်းညှိသွားရန် **"စာချုပ်ဝင် (က)"** မှ ဓာတ်အားစနစ်ဌာနနှင့် သဘောတူညီမှုရယူဆောင်ရွက်ပေးရမည်။

၄-၁-၃ ဓာတ်အားပေးစက်ရုံရှိ သက်ဆိုင်ရာ စက်ပစ္စည်းကိရိယာများနှင့် ပက်သက်၍ နည်းပညာပိုင်း ဆိုင်ရာ မြှင့်တင်မှုတွင်လည်းကောင်း၊ အချက်အလက်များကို ချိန်ညှိရာတွင်လည်းကောင်း **"စာချုပ်ဝင် (ခ)"** နှင့် ပူးပေါင်းကူညီဆောင်ရွက်ရမည်။

၄-၁-၄ ဓာတ်အားပို့လွှတ်ခြင်းနှင့် သတင်းအချက်အလက် ထုတ်ဖော်ချက်များကို ပွင့်ပွင့်လင်းလင်း မျှမျှတတနှင့် နည်းလမ်းတကျစီမံဆောင်ရွက်ရမည်။ ဤသဘောတူစာချုပ်အတိုင်း ဆောင်ရွက်သွားနိုင်ရန်အတွက် ဓာတ်အားသုံးစွဲသူ၏ ဓာတ်အားလိုအပ်ချက်၊ အရန်ထားရှိရမည့် ဓာတ်အားပမာဏ၊ ဓာတ်အားလိုင်းနှင့် ဓာတ်အားခွဲရုံများ၏ လုပ်ငန်းလည်ပတ်မှု အခြေအနေများနှင့် အခြားသက်ဆိုင်သော သတင်းအချက်အလက်များကို ပေးရမည်။

၄-၁-၅ ဓာတ်အားပေးစက်ရုံ၏ ဓာတ်အားပေးစက်များ ပြန်လည်စတင်လည်ပတ်နိုင်ရန်အတွက် လိုအပ်သော ဓာတ်အားကို ဓာတ်အားစနစ်မှ ဓာတ်အားပို့လွှတ်နိုင်သော အခြေအနေတွင်ရှိပါက **"စာချုပ်ဝင် (ခ)"** ၏ ဓာတ်အားပေးစက်ရုံသို့ ပို့လွှတ်ပေးရမည်။

### ၄-၂ "စာချုပ်ဝင် (ခ)" ၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

၄-၂-၁ ဤသဘောတူစာချုပ်အရ လျှပ်စစ်ကဏ္ဍတွင် သတ်မှတ်ပြဋ္ဌာန်းထားသော စံချိန်စံညွှန်းအတိုင်း လျှပ်စစ်စွမ်းအားကို **"စာချုပ်ဝင် (က)"** သို့ ရောင်းချသွားရမည်။

၄-၂-၂ ဓာတ်အားပေးစက်များ၊ စက်ပစ္စည်းအစိတ်အပိုင်းများ၏ လုပ်ငန်းလည်ပတ်မှု အခြေအနေနှင့် သက်ဆိုင်သော အချက်အလက်များ၊ ညွှန်ပြချက်များကို **"စာချုပ်ဝင် (က)"** ၏ လိုအပ်ချက်အတိုင်း လစဉ်ပေးပို့ရန်နှင့် စက်ပစ္စည်းချို့ယွင်းမှု အခြေအနေများကိုလည်း အချိန်မီအကြောင်းကြားပေးရမည်။

၄-၂-၃ **"စာချုပ်ဝင် (က)"** အား ဓာတ်အားပေးစက်များ၏ ကာလအပိုင်းအခြားအလိုက် ပြုပြင်ထိန်းသိမ်းမှုအစီအစဉ်များကို နှစ်စဉ်ပေးအပ်၍ ၎င်းအစီအစဉ်အတိုင်း အကောင်အထည်ဖော်ရာတွင် **"စာချုပ်ဝင် (က)"** နှင့် ပေါင်းစပ်ညှိနှိုင်း စီစဉ်ဆောင်ရွက်သွားရန်နှင့် ဆောင်ရွက်မည့်အစီအစဉ်ကို စာချုပ်ဝင်များမှ ဆွေးနွေးညှိနှိုင်း ဆုံးဖြတ်ရမည်။

၄-၂-၄ နည်းပညာပိုင်းဆိုင်ရာမြင့်တင်မှု (သို့မဟုတ်) အချက်အလက် ညှိနှိုင်းမှုများကို လိုအပ်သည့် အခါတိုင်း အချိန်မီဆောင်ရွက်ရန်နှင့် **"စာချုပ်ဝင် (က)"** သို့ ၎င်း၏ ကိုယ်ပိုင်မှတ်တမ်းအတွက် သတင်းပို့ရမည်။ [ဓာတ်အားစနစ် လုံခြုံစိတ်ချရမှုနှင့် သက်ဆိုင်သော နည်းပညာပိုင်းဆိုင်ရာမြင့်တင်မှု (သို့မဟုတ်) အချက်အလက်များကို **"စာချုပ်ဝင် (က)"** ၏ သဘောတူညီချက်ကို ရယူရမည်။]

၄-၂-၅ စက်ရုံရှိ ပစ္စည်းကိရိယာများသည် ဓာတ်အားစနစ်နှင့် လိုက်လျောညီထွေရှိမည့် အခြေအနေတွင် အစဉ်ရှိနေစေရေး ဓာတ်အားစနစ် ကွပ်ကဲရေးဌာနနှင့် လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ထားရမည်။

## အခန်း (၅)

## လျှပ်စစ်စွမ်းအားနှင့် လျှပ်စစ်စွမ်းအင်ပို့လွှတ်ခြင်း

### ၅-၁ စီမံလျာထားခြင်းနှင့် ဓာတ်အားပို့လွှတ်ခြင်း

**"စာချုပ်ဝင် (ခ)"** သည် ဓာတ်အားပေးစက်များ ပြုပြင်ထိန်းသိမ်းမှု အစီအစဉ်၊ နောက်တစ်လအတွက် (စီးဝင်မှု) ရေရရှိနိုင်မှု ခန့်မှန်းချက်များကို ထည့်သွင်းစဉ်းစားလျက် အပိုဒ် (၆-၁)အရ နောက်တစ်လအတွက် ဓာတ်အား ထုတ်လုပ်မှုအစီအစဉ်ကို လစဉ် (၂၅)ရက်နေ့တွင် **"စာချုပ်ဝင် (က)"** သို့ ပေးပို့ရမည်။ **"စာချုပ်ဝင် (က)"** မှလည်း **"စာချုပ်ဝင် (ခ)"** က ပေးထားသော ဓာတ်အားထုတ်လုပ်မှု အစီအစဉ် ဝန်အားအခြေပြဂရပ်အရ **"စာချုပ်ဝင် (ခ)"** ၏ ဓာတ်အားပေးစက်များ ဓာတ်အားထုတ်လုပ်နိုင်မှုကို စီစဉ်ဆောင်ရွက်သွားရမည်။

### ၅-၂ အချိန်နှင့်တစ်ပြေးညီ ဓာတ်အားပေးပို့ခြင်း (Real time dispatch)

**"စာချုပ်ဝင် (က)"** သည် ဓာတ်အားစနစ်လုံခြုံစိတ်ချရမှုနှင့် တည်ငြိမ်မှုရှိစေရန် လုံခြုံစိတ်ချရသည့် အတိုင်း အတာ ဖုန်ပမာဏအတွင်း **"စာချုပ်ဝင် (ခ)"** ၏ ဓာတ်အားပေးစက်များကို မောင်းနှင်စေပြီး အပိုဒ် (၆-၁) အတိုင်း တိတိကျကျလိုက်နာ၍ ဓာတ်အားပေးပို့ခြင်းလုပ်ငန်းကို အချိန်နှင့်တစ်ပြေးညီ လုပ်ဆောင်သွားရမည်။ အချိန်နှင့် တစ်ပြေးညီ ဓာတ်အားပေးပို့ခြင်းအတွက် ဓာတ်အားစနစ် ကွပ်ကဲရေးဌာနနှင့် ဆက်သွယ်ဆောင်ရွက်ရမည်။ **"စာချုပ်ဝင် (ခ)"** သည် ဓာတ်အားစနစ် ကွပ်ကဲရေးဌာနက စက်ရုံသို့ တိုက်ရိုက်သော်လည်းကောင်း၊ မူဆယ်ဓာတ်အားခွဲရုံမှ တဆင့်သော်လည်းကောင်း အခါအားလျော်စွာ တိုက်ရိုက်ပေးအပ်သည့် ဓာတ်အားပို့လွှတ်မှုနှင့် ပတ်သက်သော ညွှန်ကြားချက်များကို လိုက်နာရမည်။

## အခန်း (၆)

## လျှပ်စစ်စွမ်းအားဝယ်ယူခြင်းနှင့် ရောင်းချခြင်း

### ၆-၁ နှစ်စဉ်စီမံလျာထားသော လျှပ်စစ်စွမ်းအားပမာဏ

**"စာချုပ်ဝင် (ခ)"** သည် နှစ်စဉ် ဒီဇင်ဘာလ (၃၁) ရက်နေ့မတိုင်မီ (သို့မဟုတ်) **"စာချုပ်ဝင် (က)"**မှ ကြိုတင် တောင်းဆိုသည့်အချိန်တွင် နောက်နှစ်အတွက် ဓာတ်အားထုတ်လုပ်မည့် အစီအစဉ်ကို "စာချုပ်ဝင် (က)" သို့ပေးပို့ရ မည်။

## နှစ်စဉ် ထုတ်လုပ်ရန်လျာထားသည့် လျှပ်စစ်စွမ်းအား

(ယူနစ်သန်းပေါင်း)

| စဉ် | လ | စီမံလျာထားသော စာချုပ် ထားသည့် လျှပ်စစ်စွမ်းအား | မှတ်ချက် |
|---|---|---|---|
| ၁ | ဇန်နဝါရီ | 3.95 | နွေရာသီ |
| ၂ | ဖေဖော်ဝါရီ | 2.95 | |
| ၃ | မတ် | 2.42 | |
| ၄ | ဧပြီ | 2.22 | |
| ၅ | မေ | 2.12 | |
| ၆ | ဇွန် | 8.22 | |
| ၇ | ဇူလိုင် | 13.67 | မိုးရာသီ |
| ၈ | ဩဂုတ် | 14.30 | |
| ၉ | စက်တင်ဘာ | 13.30 | |
| ၁၀ | အောက်တိုဘာ | 10.77 | |
| ၁၁ | နိုဝင်ဘာ | 6.65 | |
| ၁၂ | ဒီဇင်ဘာ | 4.82 | နွေရာသီ |
| | စုစုပေါင်း | 85.39 | |

စီမံလျာထားသော စာချုပ်ထားသည့် လျှပ်စစ်စွမ်းအား = 85.39 ကီလိုဝပ်နာရီသန်းပေါင်း

- ❖ အထက်ဖော်ပြပါ ဇယားအရ စီမံလျာထားသော စာချုပ်ထားသည့် လျှပ်စစ်စွမ်းအားကို သတ်မှတ်ထားသော်လည်း လစဉ်ရေစီးဝင်မှုအရ ဓာတ်အားပိုမိုထုတ်လုပ်နိုင်ပါက **"စာချုပ်ဝင် (က)"** မှ ညှိနှိုင်းဝယ်ယူရန် သဘောတူညီမှုရှိကြပါသည်။

### ၆-၂ ခွင့်ပြုနိုင်သော လျှပ်စစ်စွမ်းအားပမာဏကွဲလွဲမှု

အချိန်ကာလတစ်ခုခုအတွင်း ဓာတ်အားပေးစက်ရုံမှ အမှန်တကယ်ထုတ်လုပ်သော လျှပ်စစ်စွမ်းအားပမာဏနှင့် နေ့စဉ်လျှပ်စစ်စွမ်းအား ပို့လွှတ်မှုအစီအမံပြဂရပ် (ယာယီ ညှိနှိုင်းမှုဂရပ် အပါအဝင်) အကြား လျှပ်စစ်စွမ်းအား ကွဲလွဲမှုသည် +/- ၁၀% သာ ခွင့်ပြုပါမည်။ အရေးပေါ်အခြေ အနေတွင် မြန်မာ့ဓာတ်အားစနစ်ကွပ်ကဲရေးဌာနသည် သတ်မှတ်ထားသော ကွဲလွဲမှုတန်ဖိုးထက် ပိုမို (သို့မဟုတ်) လျော့နည်း ထုတ်လုပ်ပေးရန် တောင်းဆိုလျှင် မြန်မာ့ ဓာတ်အားစနစ် လိုအပ်ချက်ပြည့်မီရန်နှင့် ဓာတ်အားပေးစက်များတွင် ဓာတ်အားပိုမိုထုတ်လုပ်ရရှိနိုင်ရန် ရေစီးဝင်နှုန်းသည် ကောင်းမွန်သည့် အခြေအနေတွင်ရှိပါက ဓာတ်အားပေးစက်ရုံသည် အကောင်းဆုံးကြိုးစား ဆောင်ရွက်ပေးရမည်။

## ၆-၃ ဓာတ်အားစနစ်သို့ အမှန်တကယ်ပို့လွှတ်သည့် လျှပ်စစ်စွမ်းအားပမာဏ

ဓာတ်အားစနစ်သို့ လစဉ်အမှန်တကယ်ပို့လွှတ်သည့် လျှပ်စစ်စွမ်းအားပမာဏသည် အပိုဒ်(၆-၂)တွင် သတ်မှတ်ထားသော ခွင့်ပြုနိုင်သည့် ကွဲလွဲမှုအတွင်း လျှပ်စစ်ဓာတ်အားပေးစက်များမှ လစဉ်ထုတ်လုပ်သော လျှပ်စစ်စွမ်းအားပမာဏ၊ စာချုပ်ဝင်နှစ်ဦးစလုံး၏ တာဝန်ပျက်ကွက်မှု (လိုအပ်ချက်)ကြောင့် အပိုဒ်(၆-၂)တွင် သတ်မှတ်ထားသော ခွင့်ပြုနိုင်သည့် ကွဲလွဲမှုထက် ကျော်လွန်၍ တစ်လချင်းစီအတွက် ထုတ်လုပ်ပေးရသော လျှပ်စစ် စွမ်းအားပမာဏနှင့် ဓာတ်အားပို့လွှတ်မှုအစီအစဉ် လိုအပ်ချက်နှင့် ကိုက်ညီသော အခြားအခြေအနေများ၌ လျှပ်စစ် ဓာတ်အားပေးစက်မှ လစဉ်ထုတ်လုပ်ပေးရသော လျှပ်စစ်စွမ်းအားပမာဏ စုစုပေါင်းဖြစ်သည်။

## ၆-၄ ပျက်ကွက်မှုများ (လိုအပ်ချက်)ကြောင့် လျှပ်စစ်စွမ်းအား ပိုမိုထုတ်လုပ်ခြင်း (သို့မဟုတ်) လျှပ်စစ်စွမ်းအား လျော့နည်းထုတ်လုပ်ခြင်း

အချိန်ကာလတစ်ခုခုအတွင်း **"စာချုပ်ဝင် (ခ)"** ၏ ဓာတ်အားပေးစက်များသည် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှု(လိုအပ်ချက်)ကြောင့် ခွင့်ပြုနိုင်သော ကွဲလွဲချက်အတိုင်းအတာ ကျော်လွန်၍ ဓာတ်အားထုတ်လုပ်ပါက ထိုသို့ဓာတ်အား ပိုမိုထုတ်လုပ်ခြင်း (သို့မဟုတ်) လျော့နည်း ထုတ်လုပ်ခြင်းမှရရှိသော လျှပ်စစ်စွမ်းအားပမာဏကို **"စာချုပ်ဝင် (က)"** ၏ အစီအစဉ်ပြင်ပမှ ဓာတ်အားပိုမိုဝယ်ယူမှုနှင့် လျော့နည်းဝယ်ယူမှုဟု သတ်မှတ်ဖော်ပြရမည်။

## ၆-၅ ပျက်ကွက်မှု (လိုအပ်ချက်) များကြောင့် လျှပ်စစ်စွမ်းအားပိုမိုဝယ်ယူခြင်း (သို့မဟုတ်) လျော့နည်းဝယ်ယူခြင်းတို့ကို မီတာဖတ်ခြင်းနှင့် တိုင်းတာခြင်း။

၆-၅-၁ စိုစွတ်ရာသီတွင် **"စာချုပ်ဝင် (က)"**၏ ပျက်ကွက်မှုကြောင့် လျှပ်စစ်စွမ်းအားကို လျော့နည်းဝယ်ယူသည့် ပမာဏ

ဤသဘောတူစာချုပ်တွင် စိုစွတ်ရာသီ၌ ဝယ်ယူရမည့် ဓာတ်အားပမာဏသည် စီမံလျာထား သည့် စာချုပ်ထားသော လျှပ်စစ်စွမ်းအားပမာဏ၏ ၆၀% အောက် လျော့နည်းဝယ်ယူမှု မဖြစ်ပေါ်စေရေး ဆောင်ရွက်ရန် ဖော်ပြပါရှိသဖြင့် **"စာချုပ်ဝင် (က)"** သည် စိုစွတ်ရာသီ၌ ဓာတ်အားကို ပိုမိုတိုးမြှင့်ဝယ်ယူနိုင်ရေး ကြိုးစားပေးရန် ဖြစ်ပါသည်။

စိုစွတ်ရာသီအတွင်း **"စာချုပ်ဝင် (က)"** သည် ဝယ်ယူရန်ပျက်ကွက်မှုကြောင့် ယင်းလအတွက် အမှန်တကယ် လျှပ်စစ်စွမ်းအားဝယ်ယူမှုပမာဏသည် ထိုလအတွက် စီမံလျာထားသည့် စာချုပ်ထားသော လျှပ်စစ်စွမ်းအားပမာဏ၏ ၆၀% အောက် လျော့နည်းနေလျှင် အမှန်တကယ်ဝယ်ယူသော လျှပ်စစ်စွမ်းအားနှင့် စီမံလျာထားသည့် စာချုပ်ထားသော လျှပ်စစ်စွမ်းအားပမာဏ ၏ ၆၀% တို့ ခြားနားချက်သည် စိုစွတ်ရာသီတွင် လျော့နည်းဝယ်ယူသည့် လျှပ်စစ်စွမ်းအား ပမာဏအဖြစ် ရရှိရမည်။ **"စာချုပ်ဝင် (က)"** သည် စိုစွတ်ရာသီတွင် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှုကြောင့် လျှပ်စစ်စွမ်းအား လျော့နည်းဝယ်ယူမှုပမာဏအတွက် လျော်ကြေးငွေ ကို အောက်ပါပုံသေနည်းအတိုင်း တွက်ချက်၍ **"စာချုပ်ဝင် (ခ)"** သို့ ပေးလျော် ရမည် -

$Q_f + Q_{dB} \geq Q_c \times 60\%$ ဖြစ်လျှင် $Q_{d1} = 0$

$Q_f + Q_{dB} < Q_c \times 60\%$ ဖြစ်လျှင် $Q_{d1} = Q_c \times 60\% - (Q_f + Q_{dB})$

$Q_{d1}$ = စိုစွတ်ရာသီများတွင် **"စာချုပ်ဝင် (က)"** သည် ဝယ်ယူရန်ပျက်ကွက်မှုကြောင့် လစဉ်လျှပ်စစ်စွမ်းအား လျော့နည်းဝယ်ယူမှုပမာဏ

$Q_{dB}$ = **“စာချုပ်ဝင် (ခ)”** ကြောင့်ဖြစ်သော လျော့နည်းထုတ်လုပ်သည့် လျှပ်စစ်စွမ်းအား ပမာဏ

$Q_f$ = ဓာတ်အားစနစ်သို့ လစဉ်အမှန်တကယ်ပို့လွှတ်သည့် လျှပ်စစ်စွမ်းအားပမာဏ

$Q_c$ = လစဉ်စီမံလျာထားသည့် စာချုပ်ထားသော လျှပ်စစ်စွမ်းအားပမာဏ

၆-၅-၂ ခြောက်သွေ့ရာသီတွင် **“စာချုပ်ဝင် (က)”** ၏ ပျက်ကွက်မှု(လိုအပ်ချက်)ကြောင့် ပိုမိုဝယ်ယူသည့် လျှပ်စစ်စွမ်းအားပမာဏ

ခြောက်သွေ့ရာသီအတွင်း **“စာချုပ်ဝင် (က)”** ၏ ပျက်ကွက်မှု(လိုအပ်ချက်)ကြောင့် ယင်းလ အတွက် အမှန်တကယ်ဝယ်ယူသည့် လျှပ်စစ်စွမ်းအားပမာဏသည် ထိုလအတွက် စီမံလျာထားသည့် စာချုပ်ထားသော လျှပ်စစ်စွမ်းအားပမာဏထက် ပိုမိုလျှင် ၎င်းကွာခြားမှုသည် ခြောက်သွေ့ရာသီအတွင်း **“စာချုပ်ဝင် (က)”** ၏ ပျက်ကွက်မှု(လိုအပ်ချက်)ကြောင့် လျှပ်စစ်စွမ်းအား ပိုမိုဝယ်ယူသည့်ပမာဏအဖြစ် ရရှိရမည်။ ၃% ကွာဟချက် ကို ခွင့်ပြုပါသည်။ “**စာချုပ်ဝင် (ခ)”** သည် ခြောက်သွေ့ရာသီတွင် ထိုလအတွက် **“စာချုပ်ဝင် (က)”** အတွက် စာချုပ်ထားသော လျှပ်စစ်စွမ်းအားပမာဏထက် ပိုမိုထုတ်လုပ်နိုင်လျှင် **“စာချုပ်ဝင် (က)”** မှလည်း ပိုမိုသော လျှပ်စစ်စွမ်းအားကို ဝယ်ယူရန် သဘောတူလျှင် ၎င်းပမာဏကို **“စာချုပ်ဝင် (က)”** ၏ ပျက်ကွက်မှုကြောင့် ဖြစ်ပေါ်သည့် ပိုမိုဝယ်ယူသော လျှပ်စစ်စွမ်းအား ပမာဏအဖြစ် သတ်မှတ်လိမ့်မည် မဟုတ်ပါ။ **“စာချုပ်ဝင် (က)”** သည် ခြောက်သွေ့ရာသီတွင် “စာချုပ်ဝင် (က)” ၏ ပျက်ကွက်မှု (လိုအပ်ချက်)ကြောင့် ပိုမိုဝယ်ယူသော လျှပ်စစ်စွမ်းအားပမာဏအတွက် လျော်ကြေးငွေကို အောက်ပါပုံသေနည်းအတိုင်း တွက်ချက်၍ **“စာချုပ်ဝင် (ခ)”** သို့ ပေးလျော်ရမည်။

$Q_f \leq Q_c \times 103\%$ ဖြစ်လျှင် $Q_a = 0$

$Q_f > Q_c \times 103\%$ ဖြစ်လျှင် $Q_a = Q_f - Q_c \times 103\%$

$Q_a$ = ခြောက်သွေ့ရာသီတွင် **“စာချုပ်ဝင် (က)”** ၏ ပျက်ကွက်မှု (လိုအပ်ချက်)ကြောင့် လစဉ် လျှပ်စစ်စွမ်းအား ပိုမိုဝယ်ယူမှုပမာဏ

$Q_f$ = ဓာတ်အားစနစ်သို့ လစဉ်အမှန်တကယ်ပို့လွှတ်သည့် လျှပ်စစ်စွမ်းအားပမာဏ

$Q_c$ = လစဉ်စီမံလျာထားသည့် စာချုပ်ထားသော လျှပ်စစ်စွမ်းအားပမာဏ

၆-၅-၃ ခြောက်သွေ့ရာသီတွင် **“စာချုပ်ဝင် (ခ)”** ၏ ပျက်ကွက်မှုကြောင့် လျော့နည်း ထုတ်လုပ်သည့် လျှပ်စစ်စွမ်းအားပမာဏ

ခြောက်သွေ့ရာသီ ကာလတွင် အမှန်တကယ်ဝယ်ယူရရှိသည့် လျှပ်စစ်စွမ်းအားပမာဏ သည် ထိုလများအတွက် စီမံလျာထားသည့် စာချုပ်ထားသော လျှပ်စစ်စွမ်းအားပမာဏထက် ၈၀% အောက် လျော့နည်းနေလျှင် ၎င်းတို့၏ခြားနားချက်သည် ခြောက်သွေ့ရာသီတွင် **“စာချုပ်ဝင် (ခ)”** ၏ ပျက်ကွက် မှုကြောင့် လျော့နည်းထုတ်လုပ်သည့် လျှပ်စစ်စွမ်းအားပမာဏအဖြစ် ရရှိရမည်။ **“စာချုပ်ဝင် (ခ)”** သည် ခြောက်သွေ့ရာသီတွင် **“စာချုပ်ဝင် (ခ)”** ၏ ပျက်ကွက်မှုကြောင့် လျှပ်စစ်စွမ်းအား လျော့နည်းထုတ်လုပ်သည့် ပမာဏအတွက် လျော်ကြေးငွေကို အောက်ပါ ပုံသေနည်းအတိုင်း တွက်ချက်၍ **“စာချုပ်ဝင် (က)”** သို့ ပေးလျော် ရမည်။

$Q_f + Q_{dA} \geq Q_c \times 80\%$ ဖြစ်လျှင် $Q_{d2} = 0$

$Q_f + Q_{dA} < Q_c \times 80\%$ ဖြစ်လျှင် $Q_{d2} = Q_c \times 80\% - (Q_f + Q_{dA})$

$Q_{d2}$ = ခြောက်သွေ့ရာသီတွင် **“စာချုပ်ဝင် (ခ)”** ၏ ပျက်ကွက်မှုကြောင့် လစဉ်လျှပ်စစ်စွမ်းအား လျော့နည်း ထုတ်လုပ်မှုပမာဏ

$Q_{dA}$ = **"စာချုပ်ဝင် (က)"** ကြောင့်ဖြစ်သော လျော့နည်းထုတ်လုပ်သည့် လျှပ်စစ်စွမ်းအား ပမာဏ

$Q_f$ = ဓာတ်အားစနစ်သို့ လစဉ်အမှန်တကယ်ပို့လွှတ်သည့် လျှပ်စစ်စွမ်းအားပမာဏ

$Q_c$ = လစဉ်စီမံလျာထားသည့် စာချုပ်ထားသော လျှပ်စစ်စွမ်းအားပမာဏ

## ၆-၆ လစဉ်ဝယ်ယူမည့် လျှပ်စစ်စွမ်းအားပမာဏများ တွက်ချက်ခြင်း

လစဉ်ဝယ်ယူမည့် လျှပ်စစ်စွမ်းအားပမာဏသည် နမ့်ပေါ်ရေအားလျှပ်စစ် ဓာတ်အားပေး စက်ရုံအထွက် (On the Fence) မှ ဓာတ်အားစနစ်သို့ လစဉ် အမှန်တကယ်ပို့လွှတ်သည့် လျှပ်စစ်စွမ်းအားပမာဏကို ဆိုလိုခြင်း ဖြစ်သည်။

# အခန်း (၇)

# အရောင်းအဝယ်ဈေးနှုန်း

## ၇-၁ အရောင်းအဝယ်ဈေးနှုန်း

**"စာချုပ်ဝင် (က)"** နှင့် **"စာချုပ်ဝင် (ခ)"** တို့သည် ခင်မင်ရင်းနှီးစွာ အကြေအလည် စေ့စပ် ဆွေးနွေး ညှိနှိုင်းပြီးနောက် **"စာချုပ်ဝင် (ခ)"** သည် တစ်ယူနစ်လျှင် ၆၅/- (ခြောက်ဆယ့် ငါးကျပ်) နှုန်းဖြင့် **"စာချုပ်ဝင် (က)"** သို့ ရောင်းချမည်ဖြစ်ပြီး စာချုပ်ဝင်နှစ်ဖက်က ဤသဘောတူစာချုပ်၌ အသီးသီးဖော်ပြထားသော ဘဏ်များမှတဆင့် စာရင်းပြောင်းနည်းဖြင့်ပေးချေရမည် ဖြစ်ပါသည်။ နှစ်စဉ်ဓာတ်အားခများ ပြင်ဆင် သတ်မှတ်ရေးကို ညှိနှိုင်း ဆောင်ရွက်ရန် နှစ်ဦးနှစ်ဖက် သဘောတူညီကြပါသည်။

# အခန်း (၈)

# လျှပ်စစ်စွမ်းအားမီတာဖတ်ယူခြင်း

## ၈-၁ မီတာဖတ်ယူသည့်နေရာများ

ဓာတ်အားစနစ်သို့ ပို့လွှတ်သော လျှပ်စစ်စွမ်းအားနှင့် ဓာတ်အားစနစ်မှ ရယူသော လျှပ်စစ်စွမ်းအားများ အတွက် မီတာဖတ်ယူသည့် နေရာများကို နမ့်ပေါ်ရေအားလျှပ်စစ် ဓာတ်အားပေးစက်ရုံတွင် နှစ်ဖက် စာချုပ်ဝင်များက သတ်မှတ်ရန်ဖြစ်သည်။

## ၈-၂ လျှပ်စစ်စွမ်းအား တိုင်းတာသောမီတာနှင့် ဆက်စပ်ပစ္စည်းကိရိယာများ

၈-၂-၁ လျှပ်စစ်စွမ်းအားတိုင်းတာသော မီတာပစ္စည်းများ၏ တိကျမှုသည် ၆၆ ကေဗွီ ဓာတ်အားလိုင်း အထွက်ဖက်တွင် 0.2S အဆင့် နိုင်ငံတကာလျှပ်စစ်စွမ်းအားလုပ်ငန်းဆိုင်ရာစံနှုန်း IEC 62053-22 နှင့်ကိုက်ညီရမည် ဖြစ်ပြီး လွဲမှားမှုခွင့်ပြုချက် ± 0.2% သတ်မှတ်သည်) ရှိရန် လိုအပ်ပါသည်။

၈-၂-၂ ဓာတ်အားစနစ်နှင့် ဓာတ်အားပေးစက်ရုံအား မဆက်သွယ်မီ လိုအပ်သည့်နေရာ၌ မီတာပစ္စည်း များ တပ်ဆင်ခြင်းကို **"စာချုပ်ဝင် (ခ)"** ၏ တာဝန်ဝတ္တရားအဖြစ် ပြီးစီးအောင် ဆောင်ရွက်ရပါ မည်။ ဓာတ်အားမလွှတ်မီ တိုင်းတာသောမီတာနှင့် တိုင်းတာရရှိသော လျှပ်စစ်စွမ်းအား အချက်အလက် ပေးပို့မည့် အစွန်းဆုံးနေရာများအကြားရှိ ဆက်သွယ်မှုလမ်းကြောင်းများ၊ ဦးစားပေးအဆင့်အတန်း များနှင့် ဖွဲ့စည်းမှုများအပါအဝင် စမ်းသပ်ခြင်း၊ စစ်ဆေးလက်ခံခြင်း တို့ကို **"စာချုပ်ဝင် (က)"** နှင့် **"စာချုပ်ဝင် (ခ)"** တို့ ပူးပေါင်းဆောင်ရွက်ရမည်။

၈-၂-၃ အမျိုးအစား စံချိန်စံညွှန်း၊ တိကျမှုတူညီသော ပင်မမီတာနှင့် အရန်မီတာများကို မီတာဖတ်မည့် နေရာတိုင်းတွင် တစ်စုံစီ တပ်ဆင်ထားရမည်။ ပင်မမီတာနှင့် အရန်မီတာတို့ကို ပေါ်လွင် ထင်ရှားစွာ ခွဲခြားပြီး အမှတ်အသားပြုထားရမည်။

၈-၂-၄ ဓာတ်အားစနစ်နှင့် ဆက်သွယ်ရန်အတွက် လျှပ်စစ်စွမ်းအားတိုင်းတာသော မီတာပစ္စည်းများ ဝယ်ယူရန်နှင့် ပေးချေရန်၊ တပ်ဆင်ရန်နှင့် စမ်းသပ်ရန်တို့ကို **"စာချုပ်ဝင် (ခ)"** မှ ဆောင်ရွက်ရမည့် အပြင် နေ့စဉ်စီမံခန့်ခွဲမှုနှင့် ပြုပြင်ထိန်းသိမ်းမှုများသည် **"စာချုပ်ဝင် (ခ)"** ၏ တာဝန် ဝတ္တရားများပင် ဖြစ်ပါသည်။

## ၈-၃ လျှပ်စစ်စွမ်းအားမီတာများ ချိန်ညှိခြင်း

၈-၃-၁ လျှပ်စစ်စွမ်းအားမီတာပစ္စည်းများ အပြစ်ရှာဖွေခြင်းနှင့် ပုံမှန်ချိန်ညှိခြင်းတို့ကို **"စာချုပ်ဝင် (က)"** နှင့် **"စာချုပ်ဝင် (ခ)"** တို့ လက်ခံအတည်ပြုထားသော စစ်ဆေးစမ်းသပ်ရေး ကိုယ်စားလှယ် အဖွဲ့ဖြင့် ဆောင်ရွက်ရပါမည်။ ကုန်ကျစရိတ်များကို **"စာချုပ်ဝင် (ခ)"** မှ ကျခံရပါမည်။

၈-၃-၂ လျှပ်စစ်မီတာ ပုံမှန်ချိန်ညှိခြင်းအပြင် တစ်ချိန်ချိန်၌ မီတာအား ချိန်ညှိရန် (သို့မဟုတ်) စမ်းသပ် ရန် လိုအပ်လာနိုင်ပါသည်။ ထိုအခါ ချိန်ညှိခြင်း (သို့မဟုတ်) စမ်းသပ်ခြင်းများကို **"စာချုပ်ဝင် (က)"** နှင့် **"စာချုပ်ဝင် (ခ)"** တို့မှ သဘောတူလက်ခံသော စစ်ဆေးစမ်းသပ်ရေး ကိုယ်စားလှယ် အဖွဲ့ဖြင့် ဆောင်ရွက်ရပါမည်။ ကုန်ကျစရိတ်များကို **"စာချုပ်ဝင် (ခ)"** မှ ကျခံရပါမည်။

## ၈-၄ ပုံမှန်မဟုတ်သော မီတာတိုင်းတာခြင်းအား ကိုင်တွယ်ဖြေရှင်းခြင်း

ဤသဘောတူစာချုပ်၏ **"စာချုပ်ဝင် (က)"** (သို့မဟုတ်) **"စာချုပ်ဝင် (ခ)"** တစ်ဦးဦးက လျှပ်စစ်စွမ်းအား တိုင်းတာသော မီတာပစ္စည်းများသည် ပုံမှန်မဟုတ်ခြင်း (သို့မဟုတ်) စက်ချို့ယွင်းခြင်းကြောင့် လျှပ်စစ် စွမ်းအားတိုင်းတာခြင်းကို ထိခိုက်မှု ဖြစ်ပေါ်နေကြောင်း တွေ့ရှိရပါက အဆိုပါပြစ်ချက်အား ဆန်းစစ်အဖြေရှာ ရန်နှင့် မီတာအား ပုံမှန်အခြေအနေအတိုင်း အမြန်ဆုံးအလုပ် လုပ်နိုင်စေရန်အတွက် **"စာချုပ်ဝင် (က)"** နှင့် **"စာချုပ်ဝင် (ခ)"** တို့ လက်ခံနိုင်သော မီတာစမ်းသပ်စစ်ဆေးရေး ကိုယ်စားလှယ်အဖွဲ့နှင့် တစ်ဖက်စာချုပ်ဝင် ထံသို့ ချက်ချင်းအကြောင်း ကြား ရမည်။

အကယ်၍ လျှပ်စစ်စွမ်းအားတိုင်းတာသော မီတာပစ္စည်းများသည် အသစ်တစ်လုံးဖြင့် လဲလှယ်ရန်လိုအပ်ပါက ကုန်ကျစရိတ်အားလုံးကို **"စာချုပ်ဝင် (ခ)"** မှ ကျခံရမည်။

# အခန်း (၉)

# လျှပ်စစ်စွမ်းအားပမာဏတွက်ချက်ခြင်း

၉-၁ ဓာတ်အားစနစ်သို့ ပို့လွှတ်လိုက်သော လျှပ်စစ်စွမ်းအားပမာဏ (သို့မဟုတ်) ဓာတ်အားစနစ်မှ ပြန်လည်ရယူသုံးစွဲသည့် လျှပ်စစ်စွမ်းအားပမာဏများကို လစဉ်ပေးချေရမည်ဖြစ်ပြီး နေ့စဉ်မှတ်တမ်းများ၊ တင်ပြချက်များ၊ လစဉ်ပေးချေမှုများ၊ နှစ်ချုပ်စာရင်းရှင်းလင်းမှုများ ပြုလုပ်ရန်လိုအပ်သည်။ သတ်မှတ် ထားသောနေရာများတွင် တပ်ဆင်ထားသည့် လျှပ်စစ်စွမ်းအား တိုင်းတာသည့်မီတာ၌ မှတ်တမ်းတင်ထား သော လျှပ်စစ်စွမ်းအားပမာဏကို လတစ်လ၏ နောက်ဆုံးနေ့ရက် ဒေသစံတော်ချိန် ညသန်းခေါင် (၂၄:၀၀)နာရီအချိန်တွင် ပုံမှန်ဖတ်ယူပြီး ရရှိသည့်အချက်အလက်အပေါ် အခြေခံ၍ **"စာချုပ်ဝင် (က)"** နှင့် **"စာချုပ်ဝင် (ခ)"** တို့မှ လျှပ်စစ်စွမ်းအားပမာဏကို တိုင်းတာတွက်ချက်ပြီး စာချုပ်ဝင်နှစ်ဖက်စလုံးမှ လက်ခံကြောင်း အတည်ပြုရမည်။

၉-၂ လျှပ်စစ်စွမ်းအားခ ပေးချေနိုင်ရန်အတွက် တိုင်းတာရရှိသည့် အချက်အလက်များအား မှတ်တမ်းတင် သိမ်းဆည်းခြင်း

၉-၂-၁ ပုံမှန်အခြေအနေ၌ **"စာချုပ်ဝင် (က)"** နှင့် **"စာချုပ်ဝင် (ခ)"** တို့သည် လျှပ်စစ်စွမ်းအား ပမာဏကို တွက် ချက်ရာတွင် ပင်မမီတာမှ ဖတ်ယူရရှိသော အချက်အလက်များကို အခြေခံ၍တွက်ချက်ရမည်။

အရန်မီတာမှ အချက်အလက်ကို အသုံးပြုရာတွင် ပင်မမီတာမှ အချက် အလက်ကို အတည်ပြုရန် အတွက်လည်းကောင်း၊ ပင်မမီတာတွင် အပြစ်တစ်ခုခုဖြစ်၍ (သို့မဟုတ်) အကြောင်းတစ်စုံ တစ်ရာကြောင့် ပင်မမီတာ အလုပ်မ လုပ်ပါကလည်းကောင်း ပင်မမီတာအစား အရန်မီတာအား အစားထိုး အသုံးပြုသွားရမည်။

၉-၂-၂ ငွေပေးချေရန် လျှပ်စစ်စွမ်းအားပမာဏကို တိုင်းတာမှတ်တမ်းတင်ရာတွင် ကွင်းဆင်း၍ ဖတ်ရှု မှတ်တမ်းတင်ခြင်း

**"စာချုပ်ဝင် (က)"** ၏ ဓာတ်အားစနစ်ကို အဝေးထိန်းချုပ်ရေးစနစ်ဖြင့် ထိန်းသိမ်းမောင်းနှင်ခြင်း မပြုမီ အချိန်ကာလအထိ အပိုဒ် (၉-၁) နှင့်အညီ (၂၄:၀၀)နာရီတွင် မီတာမှ လျှပ်စစ်စွမ်းအား ယူနစ်များကို (Freeze Function) အသုံးပြု၍ မှတ်သားသိမ်းဆည်းပြီး နောက်တစ်နေ့တွင် **"စာချုပ်ဝင် (က)"** နှင့် **"စာချုပ်ဝင် (ခ)"** မှ ဝန်ထမ်းများက မီတာတွင် မှတ်သားထားသော အချက်အလက်များကို ကွင်းဆင်းဖတ်ယူ အတည်ပြုရမည်။

၉-၃ လျှပ်စစ်စွမ်းအားပမာဏတွက်ချက်ခြင်း

၉-၃-၁ ဓာတ်အားစနစ်သို့ လျှပ်စစ်စွမ်းအား ပို့လွှတ်ခြင်း

ဓာတ်အားစနစ်သို့ ပို့လွှတ်သည့် လျှပ်စစ်စွမ်းအားဆိုသည်မှာ ဓာတ်အားပေးစက်ရုံများမှ **"စာချုပ်ဝင် (ခ)"** က **"စာချုပ်ဝင် (က)"** ထံသို့ ပို့လွှတ်သော လျှပ်စစ်စွမ်းအားနှင့် အပိုဒ် (၈-၁)အရ မီတာ တပ်ဆင်ထားသော နေရာတွင် (ပုံမှန်ဦးတည်ရာ လမ်းကြောင်းအတိုင်း) ကောက်ယူထားသော လျှပ်စစ် စွမ်းအားပမာဏကို ဆိုလိုသည်။

၉-၃-၂ ဓာတ်အားစနစ်မှ ပြန်လည်၍လျှပ်စစ်စွမ်းအားရယူခြင်း

ဓာတ်အားစနစ်မှ လျှပ်စစ်စွမ်းအားရယူခြင်းဆိုသည်မှာ ဓာတ်အားပေးစက်ရုံရှိ စက်များလုံးဝရပ် တန့်သွားသည့်အချိန်တွင် ဓာတ်အားစနစ်မှ ရယူသည့် လျှပ်စစ်စွမ်းအားပမာဏကို ဆိုလိုပါသည်။ အပိုဒ်(၈-၁)ပါအရ တပ်ဆင်ထားသော မီတာများတွင် ကောက်ယူရရှိသော စုစုပေါင်း လျှပ်စစ်စွမ်းအား ပမာဏ (ပြောင်းပြန်စီးဆင်းခြင်း)ကို ဆိုလိုသည်။

၉-၄ ဓာတ်အားစနစ်သို့ ပို့လွှတ်သော လျှပ်စစ်စွမ်းအားပမာဏနှင့် ဓာတ်အားစနစ်မှရယူသော လျှပ်စစ်စွမ်းအား ပမာဏတို့ကို ဈေးနှုန်းတစ်ခုတည်းဖြင့် သီးခြားစီပေးချေရမည်။

## အခန်း (၁၀)

## ဝယ်ယူမည့်လျှပ်စစ်စွမ်းအားပမာဏအတည်ပြုခြင်းနှင့် ပေးချေခြင်း

### ၁၀-၁ လျှပ်စစ်စွမ်းအားများ တွက်ချက်ခြင်း

၁၀-၁-၁ လျှပ်စစ်စွမ်းအားခများကို ကျပ်ငွေဖြင့်ပေးချေရပါမည်။

၁၀-၁-၂ လျှပ်စစ်စွမ်းအားခကို အောက်ပါပုံသေနည်းအတိုင်း တွက်ချက်အတည်ပြုရပါမည်။ အတည်ပြု ထားသော လျှပ်စစ်စွမ်းအားပမာဏအတွက် ကျသင့်ငွေ၊ စိစွတ်ရာသီတွင် ပျက်ကွက်မှုကြောင့် လျော့နည်းဝယ်ယူသော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေ၊ ခြောက်သွေ့ရာသီတွင် ပျက်ကွက်မှု (လိုအပ်ချက်)ကြောင့် ပိုမိုဝယ်ယူသော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေ နှင့် ခြောက်သွေ့ရာသီ တွင် **"စာချုပ်ဝင် (ခ)"** ၏ ပျက်ကွက်မှုကြောင့် လျော့နည်းထုတ်လုပ်သော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေတို့ကို သက်ဆိုင်ရာလျှပ်စစ်စွမ်းအားပမာဏနှင့် အခန်း (၇) တွင် ဖော်ပြထားသော အရောင်းအဝယ်ဈေးနှုန်းဖြင့် မြှောက်ခြင်းဖြင့် တွက်ချက်ရမည်။

$M_b \quad = Q_b \times P$

$M_d \quad = Q_{d1} \times P$

$M_a$ = $Q_a$ x P

$M_s$ = $Q_{d2}$ x P

$M_b$ = ဝယ်ယူသော လျှပ်စစ်စွမ်းအားခ

$Q_b$ = အပိုဒ် (၆-၆) တွင် ဖော်ပြထားသော လစဉ်ဝယ်ယူသည့် လျှပ်စစ်စွမ်းအား ပမာဏ

P = လျှပ်စစ်စွမ်းအားအရောင်းအဝယ်ဈေးနှုန်း

$M_d$ = စိုစွတ်ရာသီတွင် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှုကြောင့် လျော့နည်းဝယ်ယူသော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေ

$Q_{d1}$ = စိုစွတ်ရာသီတွင် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှုကြောင့် လျော့နည်းဝယ်ယူသော လျှပ်စစ်စွမ်းအားပမာဏ

$M_a$ = ခြောက်သွေ့ရာသီတွင် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှု(လိုအပ်ချက်)ကြောင့် ပိုမိုဝယ်ယူသော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေ

$Q_a$ = ခြောက်သွေ့ရာသီတွင် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှု(လိုအပ်ချက်)ကြောင့် ပိုမိုဝယ်ယူသော လျှပ်စစ်စွမ်းအားပမာဏ

$M_s$ = ခြောက်သွေ့ရာသီတွင် **"စာချုပ်ဝင် (ခ)"** ၏ ပျက်ကွက်မှုကြောင့် လျော့နည်းထုတ်လုပ်သော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေ

$Q_{d2}$ = ခြောက်သွေ့ရာသီတွင် **"စာချုပ်ဝင် (ခ)"** ၏ ပျက်ကွက်မှုကြောင့် လျော့နည်းထုတ်လုပ်သော လျှပ်စစ်စွမ်းအားပမာဏ

ပျက်ကွက်မှုများကြောင့်ဖြစ်သော လျှပ်စစ်စွမ်းအားများအတွက် လျော်ကြေးငွေကို လျှပ်စစ်စွမ်းအားခများပေးချေရာတွင် တစ်စိတ်တစ်ပိုင်းအဖြစ် မှတ်ယူရမည်။

သို့ရာတွင် ၎င်းကိုစာချုပ်ကာလ၏ နှစ်စဉ်တစ်နှစ်ပြည့်မြောက်သည့် နောက်ဆုံးလတိုင်းတွင် အောက်ဖော်ပြပါပုံသေနည်းအတိုင်း စာရင်းရှင်းပေးချေရမည်ဖြစ်သည် -

$M_{c1}$ = $M_b + M_d$

$M_{c2}$ = $M_a + M_b - M_s$

$M_{c1}$ = စိုစွတ်ရာသီတွင် လစဉ်ပေးချေရမည့် လျှပ်စစ်စွမ်းအားခ

$M_{c2}$ = ခြောက်သွေ့ရာသီတွင် လစဉ်ပေးချေရမည့် လျှပ်စစ်စွမ်းအားခ

$M_a$ = ခြောက်သွေ့ရာသီတွင် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှု (လိုအပ်ချက်)ကြောင့် ပိုမိုဝယ်ယူသော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေ

$M_b$ = ဝယ်ယူသော လျှပ်စစ်စွမ်းအားခ

$M_d$ = စိုစွတ်ရာသီတွင် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှု (လိုအပ်ချက်)ကြောင့် လျော့ နည်းဝယ်ယူသော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေ

$M_s$ = ခြောက်သွေ့ရာသီတွင် **"စာချုပ်ဝင် (ခ)"** ၏ ပျက်ကွက်မှုကြောင့် လျော့နည်းထုတ်လုပ်သော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေ

## ၁၀-၂ လျှော်စစ်စွမ်းအားခများ စာရင်းရှင်းအတည်ပြုခြင်းနှင့် ပေးချေခြင်း

၁၀-၂-၁ အပိုဒ် (၉-၂)အရ **"စာချုပ်ဝင် (က)"** နှင့် **"စာချုပ်ဝင် (ခ)"** တို့ မီတာမှ ဖတ်ယူရရှိသည့် အချက်အလက်များကို မှတ်တမ်းတင်ပြီးနောက် ၎င်းမှတ်တမ်းအရ **"စာချုပ်ဝင် (ခ)"** သည် ဓာတ်အားစနစ်သို့ ပို့လွှတ်သည့် လျှပ်စစ်စွမ်းအားပမာဏနှင့် မီတာဖတ်ရှုမှု မှတ်တမ်းများအရ ပေးဆောင်ရမည့် လျှပ်စစ်စွမ်းအားခများကို မှန်ကန်တိကျစွာ တွက်ချက်ရပါမည်။ လျှပ်စစ်စွမ်းအားခပေးချေရန် ငွေတောင်းခံလွှာနှင့် လျှပ်စစ်စွမ်းအားခတွက်ချက်ထားမှု စာရွက်စာတမ်းများအား **"စာချုပ်ဝင် (ခ)"** မှ ပြုစုပေးရမည်ဖြစ်ပြီး **"စာချုပ်ဝင် (က)"** ထံသို့ အလုပ်လုပ်ရက် (၃)ရက် အတွင်းတွင် ဖက်စ်ဖြင့် ပေးပို့ရပါမည်။ မူရင်းစာရွက်စာတမ်းများကိုမူ ယင်းနေ့တွင်ပင် အမြန်ချောဖြင့် ပေးပို့ရမည်။

၁၀-၂-၂ **"စာချုပ်ဝင် (ခ)"**မှ ပေးပို့လိုက်သည့် လျှပ်စစ်စွမ်းအားခ ငွေတောင်းခံလွှာနှင့် လျှပ်စစ်စွမ်းအားခ တွက်ချက်ထားသော စာရွက်စာတမ်းများကို **"စာချုပ်ဝင် (က)"** မှ ချက်ချင်း စစ်ဆေးအတည်ပြု ရမည်။ အကယ်၍ အယူအဆကွဲလွဲမှုများရှိပါက **"စာချုပ်ဝင် (က)"** မှ **"စာချုပ်ဝင် (ခ)"** ထံသို့ ဖက်စ်လက်ခံရရှိပြီးနောက် (၃) ရက်အတွင်း အကြောင်းကြားရမည်။ စာချုပ်ဝင်များက သဘောထားကွဲလွဲမှုများအပေါ် ဆွေးနွေးပြီးနောက် "စာချုပ်ဝင် (ခ)" သည် ပြန်လည်ပြင်ဆင်ထားသည့် လျှပ်စစ်စွမ်းအားခ ငွေတောင်းခံလွှာနှင့် လျှပ်စစ်စွမ်းအားခ တွက်ချက်မှု စာရွက်စာတမ်းများကို နေ့ချင်းပင် ဖက်စ်ဖြင့်လည်းကောင်း၊ မူရင်းစာရွက်စာတမ်း များကို အမြန်ချောဖြင့် လည်းကောင်း ယင်းနေ့တွင်ပင် ပေးပို့ရမည်။ ထိုသို့ ဖက်စ် လက်ခံရရှိပြီး (၃)ရက်ကြာသည့် တိုင်အောင် "စာချုပ်ဝင် (က)" ဘက်မှ "စာချုပ်ဝင် (ခ)" ထံသို့ သဘောကွဲလွဲမှု အကြောင်းကြားခြင်းမရှိပါက သဘောကွဲလွဲမှုမရှိဟု အတည်ပြု မှတ်ယူရပါမည်။

၁၀-၂-၃ **"စာချုပ်ဝင် (က)"** က ပေးချေရန် အတည်ပြုထားသော လျှပ်စစ်စွမ်းအားခ တွက်ချက်မှု စာရွက်စာတမ်းများအရ **"စာချုပ်ဝင် (ခ)"** သည် ငွေတောင်းခံလွှာကို **"စာချုပ်ဝင် (က)"** ထံသို့ ပေးပို့ရ ပါမည်။ ပြင်ဆင်ပြီးပေးချေရန် လျှပ်စစ်စွမ်းအားပမာဏ စာရင်းရှင်း အတည်ပြုဖော်ပြချက်နှင့် လျှပ်စစ်စွမ်းအားခ တွက်ချက်ထားသော မူရင်းစာရွက်စာတမ်းများနှင့် ငွေတောင်းခံလွှာကို လက်ခံရရှိပြီးနောက် ရက်သတ္တပတ် (၂) ပတ်အတွင်း ဖော်ပြပါငွေတောင်းခံရမည့်ကာလ အတွက် လျှပ်စစ်စွမ်းအားခများကို **"စာချုပ်ဝင် (က)"** မှ အပြည့်အဝ ငွေပေးချေရမည်။

## ၁၀-၃ မီတာမှားယွင်းမှုကြောင့် ညှိနှိုင်းရသော လျှပ်စစ်စွမ်းအားပမာဏအပေါ် ဓာတ်အားခပေးချေခြင်း

မီတာမှားယွင်းသည့် ကိစ္စရပ်များတွင် **"စာချုပ်ဝင် (က)"** မှ **"စာချုပ်ဝင် (ခ)"** သို့ လျှပ်စစ်စွမ်းအား ခများ ထပ်ဆောင်းပေးရန် လိုအပ်သည့်အခါတွင်ဖြစ်စေ (သို့မဟုတ်) **"စာချုပ်ဝင် (ခ)"** မှ **"စာချုပ်ဝင် (က)"** အား ငွေပြန်အမ်းရန် လိုအပ်သည့်အခါတွင်ဖြစ်စေ နှစ်ဖက်စလုံးမှ စာဖြင့် သဘောတူညီချက်ရရှိပြီး နောက်တစ်လတွင် အတည်ပြုလျှပ်စစ်စွမ်းအားခများကို စာရင်း ရှင်းလင်းရမည်။

## ၁၀-၄ ဓာတ်အားစနစ်မှ လျှပ်စစ်စွမ်းအား ပြန်လည်ရယူခြင်းအတွက် ငွေပေးချေခြင်း

ဓာတ်အားစနစ်မှ လျှပ်စစ်စွမ်းအား ပြန်လည်ရယူခြင်းအတွက် လျှပ်စစ်စွမ်းအားခ တွက်ချက်ရာတွင် ဤသဘောတူစာချုပ်ပါ အပိုဒ်(၉-၃-၂)အရ တွက်ချက်ရပါမည်။ ဓာတ်အားခကို ဓာတ်အားပေးစက်ရုံနှင့် ဓာတ်အားစနစ်အကြား သတ်မှတ်ထားသော အရောင်းအဝယ် ဈေးနှုန်းဖြင့်ပင် တွက်ချက်ပြီး (၂) ပတ်အတွင်း "စာချုပ်ဝင် (ခ)" မှ ပေးဆောင်ရမည်။

## ၁၀-၅ ငွေပေးချေမှုနည်းလမ်း

ဤသဘောတူစာချုပ်အရ **"စာချုပ်ဝင် (က)"** သည် **"စာချုပ်ဝင် (ခ)"** သို့ ပေးရန်ရှိသော မည့်သည့်ငွေကိုမဆို **"စာချုပ်ဝင် (ခ)"** မှ ဤသဘောတူစာချုပ်တွင် ဖော်ပြထားသည့် ဘဏ် စာရင်းသို့ တိုက်ရိုက်ပေးချေရမည်။ **"စာချုပ်ဝင် (ခ)"** မှ ပြောင်းလဲသည့် ဘဏ်ငွေစာရင်း အမှတ်ကို **"စာချုပ်ဝင် (က)"** သို့ အသိပေးပြီးနောက် ပြောင်းလဲထားသည့် ဘဏ်ငွေစာရင်း အမှတ်သို့ ပေးချေရမည်။ **"စာချုပ်ဝင် (ခ)"** သည် သတ်မှတ်ထားသော ဘဏ်စာရင်း၌ ငွေများ လက်ခံရရှိပြီးနောက်တွင်သာ ငွေပေးချေမှု ပြီးစီးသည်ဟု မှတ်ယူရမည်။

## ၁၀-၆ အချက်အလက်များနှင့် မှတ်တမ်းများ

ဓာတ်အားရောင်းဝယ်ရေးဆိုင်ရာ အချက်အလက်များ၊ မှတ်တမ်းမှတ်ရာများနှင့် ပက်သက်၍ ဤသဘော တူစာချုပ်အရ သင့်လျော်သော အတိုင်းအတာကာလအတွင်း စစ်ဆေးရန် (သို့မဟုတ်) တွက်ချက်မှုများအပေါ် တိကျမှန်ကန်မှု ရှိ/မရှိ စစ်ဆေးအတည်ပြုနိုင်ရန်အတွက် စာချုပ်ဝင်နှစ်ဖွဲ့စလုံးသည် မိမိနှင့် သက်ဆိုင်သော မူရင်းအချက်အလက်များ၊ မှတ်တမ်းမှတ်ရာ များကို သိမ်းဆည်းထားရမည်။

## ၁၀-၇ လျော်ကြေးငွေများ ပေးချေခြင်း

၁၀-၇-၁ အပိုဒ် (၆-၅-၁)အရ စိစစ်တွက်ချက်ရာသီတွင် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှုကြောင့် ၆၀% အောက် လျော့နည်းဝယ်ယူသော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေနှင့် အပိုဒ် (၆-၅-၂)အရ ခြောက်သွေ့ရာသီတွင် **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှု (လိုအပ်ချက်) ကြောင့် ၁၀၃% ထက် ပိုမိုဝယ်ယူသော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေတို့ကို အပိုဒ် (၆-၅-၁)နှင့် (၆-၅-၂) တို့ တွင် ဖော်ပြထားသော ပုံသေနည်းများဖြင့် တွက်ချက်မှုအရ နှစ်ဦးနှစ်ဖက် ညှိနှိုင်းပြီး စာချုပ်ကာလ၏ နှစ်စဉ်တစ်နှစ်ပြည့်မြောက်သော နောက်ဆုံးလတွင် စာရင်းရှင်း ပေးချေရမည်။

၁၀-၇-၂ အပိုဒ် (၆-၅-၃) အရ ခြောက်သွေ့ရာသီတွင် **"စာချုပ်ဝင် (ခ)"** ၏ ပျက်ကွက်မှုကြောင့် ဇန်နဝါရီ လမှ ဇွန်လအထိ လများနှင့် ဒီဇင်ဘာလတို့တွင် ၈၀% အောက် လျော့နည်းထုတ်လုပ်သော လျှပ်စစ်စွမ်းအားအတွက် လျော်ကြေးငွေတို့ကို အပိုဒ် (၆-၅-၃) တွင် ဖော်ပြထားသော ပုံသေနည်းဖြင့် တွက်ချက်မှုအရ နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး စာချုပ်ကာလ၏ နှစ်စဉ် တစ်နှစ်ပြည့်မြောက်သော နောက်ဆုံးလ တွင် စာရင်းရှင်းပေးချေရမည်။

# အခန်း (၁၁)

# မလွန်ဆန်၊ မတားဆီးနိုင်သောဖြစ်ရပ်များ

၁၁-၁ မလွန်ဆန်၊ မတားဆီးနိုင်သော ဖြစ်ရပ်များကြောင့် တစ်ဖက်စာချုပ်ဝင်သည် ဤသဘောတူစာချုပ် တွင်ပါရှိသော ၎င်း၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရန် (သို့မဟုတ်) အခြားစာချုပ် ဝင်က ဆောင်ရွက်မှုကို လက်ခံရန် လုံးဝဖြစ်စေ (သို့မဟုတ်) တစ်စိတ်တစ်ဒေသဖြစ်စေ ယာယီ အားဖြင့် ဆောင်ရွက်နိုင်ခြင်းမရှိလျှင် အဆိုပါဖြစ်ရပ်ခံစားရသော စာချုပ်ဝင်က ဖြစ်ရပ်အခြေ အနေ၊ အသေးစိတ်အချက်အလက်များကို စာ ဖြင့်ရေးသား၍ အခြားတစ်ဖက် စာချုပ်ဝင်သို့ အဆိုပါဖြစ်ရပ် ဖြစ်ပွားပြီးနောက် (၁၄)ရက်အတွင်း အကြောင်း ကြားစာ ပေးပို့ရမည်။ တစ်ဖက် စာချုပ်ဝင်က လက်ခံအတည်ပြုလျှင် မလွန်ဆန် မတားဆီးနိုင်သော ဖြစ်ရပ်မြောက်ပြီး ထိခိုက် ခံစားရသော စာချုပ်ဝင်၏ တာဝန်ဝတ္တရားများကို ဆိုင်းငံ့ထားရမည်။ သို့ရာတွင် မကြာရှည် စေဘဲ အဆိုပါအရေးကိစ္စကို လုံးဝပြီးစီးအောင် ဖြစ်နိုင်သမျှဖယ်ရှားရမည်။ မလွန်ဆန်၊ မတား ဆီးနိုင်သော ဖြစ်ရပ်များကြောင့်ဖြစ်ပေါ်သော နှောင့်နှေးမှု၊ ပျက်စီးမှု၊ ဆုံးရှုံးမှုတို့အတွက် မည်သည့် စာချုပ်ဝင်တွင်မှ တာဝန်မရှိစေရ။

၁၁-၂ မလွန်ဆန်၊ မတားဆီးနိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝအတိုင်းကျရောက်သည့် ဘေးအန္တရာယ်များ၊ အစိုးရတစ်ခုက တားမြစ်ခြင်း၊ ဆန္ဒပြခြင်း၊ လုပ်ငန်းယာယီပိတ်ခြင်း၊ အလုပ်သမား သပိတ်မှောက်ခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ လျှင်လှုပ် ခြင်း၊ မုန်တိုင်းကျခြင်း၊ မိုးကြိုးပစ်ခြင်းနှင့် ဤစာရင်းတွင် ဖော်ပြထားသော အလားတူအခြား ဖြစ်ရပ်များဖြစ်သည့် တစ်ဖက်စာချုပ်ဝင်၏ ထိန်းချုပ် နိုင်မှုကို ကျော်လွန်၍ လည်းကောင်း၊ တစ်ဖက် စာချုပ်ဝင်က သတိ၊ လုံ့လ၊ ဝီရိယ စိုက်ထုတ်၍ ကြိုးပမ်း ကာကွယ် အားထုတ်လုပ်ကိုင် သည့်တိုင် မလွန်ဆန်နိုင်သောဖြစ်ရပ်များ အားလုံးကို ဆိုလိုသည်။

## အခန်း (၁၂)

## ပြန်လည်ညှိနှိုင်းဆွေးနွေးခြင်း

၁၂-၁ ဤသဘောတူစာချုပ်တွင် ကြိုတင်မှန်းဆနိုင်ခြင်းမရှိသော အခြေအနေတစ်ရပ်ရပ် ပေါ်ပေါက် လာလျှင် စာချုပ်ဝင်များသည် စာချုပ်အား ပြန်လည်ညှိနှိုင်း ဆောင်ရွက်ခွင့်ရှိစေရမည်။

## အခန်း (၁၃)

## မမျှော်လင့်ထားသော ဓာတ်အားပြတ်တောက်မှုများ

၁၃-၁ စာချုပ်ဝင်နှစ်ဖက်မှ သဘောတူထားသကဲ့သို့ **"စာချုပ်ဝင် (ခ)"**၏ ပျက်ကွက်မှုကြောင့်ဖြစ်သော ဓာတ်အား စနစ်နှင့် ချိတ်ဆက်ထားသည့် ဓာတ်အားပေးစက်များ၏ မမျှော်လင့်သော ဓာတ်အားပြတ်တောက်မှုများမှာ ထိုနှစ်အတွက် ဓာတ်အားပေးစက် တစ်လုံးစီ ခွင့်ပြုချိန်မှာ (၇၂၀) နာရီသာဖြစ်ရမည်။ **"စာချုပ်ဝင် (ခ)"** ကြောင့်ဖြစ်သည့် ထိုနှစ်အတွက် မမျှော်လင့်သော အမှန်တကယ် ဓာတ်အားပြတ်တောက်မှု စုစုပေါင်းနာရီ သည် ထိုနှစ်အတွက် ခွင့်ပြုချိန်ထက် များပါက ထိုပိုမိုကြာမြင့်သောကာလအတွက် လျှပ်စစ်စွမ်းအားပမာဏ ကို (ဓာတ်အားပေးစက် များ၏ တပ်ဆင်အင်အား × စက်များအသုံးချနိုင်မှု ပျမ်းမျှကိန်း × ပိုသောနာရီ)ဖြင့် တွက်ချက်ပြီး စာချုပ်ကာလ၏ နှစ်စဉ်တစ်နှစ်ပြည့်မြောက်သည့် နောက်ဆုံးလအတွက် ပေးချေရမည့် လျှပ်စစ် စွမ်းအားမှ နုတ်ယူခုနှိမ်ရမည်။

၁၃-၂ စာချုပ်ဝင်နှစ်ဖက်မှ သဘောတူထားသကဲ့သို့ **"စာချုပ်ဝင် (က)"** ၏ ပျက်ကွက်မှုကြောင့်ဖြစ်သော ဓာတ်အား စနစ်နှင့် ချိတ်ဆက်ထားသော ဓာတ်အားပေးစက်များ၏ မမျှော်လင့်သော ဓာတ်အားပြတ်တောက်မှုများမှာ ထိုနှစ်အတွက် ဓာတ်အားပေးစက်တစ်လုံးစီ ခွင့်ပြုချိန်မှာ (၇၂၀) နာရီသာ ဖြစ်ရမည်။ "စာချုပ်ဝင် (က)" ကြောင့်ဖြစ်သည့် ထိုနှစ်အတွက် မမျှော်လင့်သော အမှန်တကယ်ဓာတ်အားပြတ်တောက်မှု စုစုပေါင်းနာရီ သည် ထိုနှစ်အတွက် ခွင့်ပြုချိန် ထက်များပါက ထိုပိုမိုကြာမြင့်သောကာလအတွက် လျှပ်စစ်စွမ်းအားပမာဏ ကို (ဓာတ်အား ပေးစက်များ၏ တပ်ဆင်အင်အား × စက်များအသုံးချနိုင်မှုပျမ်းမျှကိန်း × ပိုသောနာရီ ) ဖြင့် တွက်ချက်ပြီး စာချုပ်ကာလ၏ နှစ်စဉ်တစ်နှစ်ပြည့်မြောက်သည့် နောက်ဆုံးလတွင် ဓာတ်အားစနစ်သို့ ပို့လွှတ် သော လျှပ်စစ်စွမ်းအားအဖြစ် ရေတွက်ရမည်။

## အခန်း (၁၄)

## ပျက်ကွက်မှုနှင့် စာချုပ်ရပ်စဲခြင်း

**၁၄-၁ အောက်ပါအဖြစ်အပျက်တစ်ခုစီသည် "စာချုပ်ဝင် (က)" နှင့်ဆိုင်သောပျက်ကွက်မှုဖြစ်ရပ်များဟုမှတ် ယူရမည် -**

(က) **"စာချုပ်ဝင် (က)"** သည် ဤသဘောတူစာချုပ်အရ "စာချုပ်ဝင် (ခ)" သို့ ပေးချေရမည့်ငွေကို သတ် မှတ်ကာလအတွင်း ပေးချေရန်ပျက်ကွက်ခြင်း၊ ထိုသို့ ပျက်ကွက်ကြောင်း ကို "စာချုပ်ဝင် (ခ)" မှ "စာချုပ်ဝင် (က)" သို့ အကြောင်းကြားစာပေးပို့သည့်နေ့မှစ၍ ရက်ပေါင်း (၆၀) ကြာသည့်တိုင်အောင် ငွေပေးချေမှုမပြုဘဲ ဆက်လက် ပျက်ကွက်နေခြင်း။

(ခ) **"စာချုပ်ဝင် (က)"** ကို ပြန်လည်ဖွဲ့စည်းခြင်း၊ ပုဂ္ဂလိကပိုင်ပြုခြင်း (သို့မဟုတ်) ပြန်လည် စုပေါင်းဖွဲ့စည်း ခြင်းများ ပြုလုပ်သည့်အခါတွင် မည်သည့်ဆက်ခံသူနှင့်မဆို ဆက်လက် ဆောင်ရွက်ရာတွင် အောက်ပါအချက်များနှင့် ကိုက်ညီမှုမရှိပါက "စာချုပ်ဝင် (က)" ၏ ပျက်ကွက်မှုအဖြစ် မှတ်ယူရမည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရက ပိုင်ဆိုင်သော (သို့မဟုတ်) လက်အောက် အဖွဲ့အစည်းအဖြစ် ဆက်လက်ရပ်တည်နေခြင်း။

(၂) **"စာချုပ်ဝင် (ခ)"** ၏ အကျိုးစီးပွားကို ထိခိုက်မှုမရှိသော အဖွဲ့အစည်းအဖြစ် ဆက်လက်ရပ်တည်နေခြင်း။

(ဂ) **"စာချုပ်ဝင် (က)"** သည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်ပျက်ကွက်ခြင်း (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်း။

**၁၄-၂ အောက်ပါအဖြစ်အပျက်များ တစ်ခုခုစီသည် "စာချုပ်ဝင် (ခ)" ၏ ပျက်ကွက်မှုဖြစ်ရပ်ဟု မှတ်ယူရမည် -**

(က) **"စာချုပ်ဝင် (ခ)"** သည် ဤစာချုပ်အရ ပေးချေရမည့်ငွေကို သတ်မှတ်ကာလအတွင်း ပေးချေရန် ပျက်ကွက်ခြင်းနှင့် ထိုသို့ ပျက်ကွက်ကြောင်းကို "စာချုပ်ဝင် (က)" မှ **"စာချုပ်ဝင် (ခ)"** သို့ အကြောင်းကြားစာ ပေးပို့သည့်နေ့မှစ၍ ရက်ပေါင်း (၆၀) ကြာသည့်တိုင်အောင် ငွေပေးချေမှုမပြုဘဲ ဆက်လက်ပျက်ကွက်နေခြင်း။

(ခ) ဤသဘောတူစာချုပ်အရ ဓာတ်အားပေးစက်ရုံမှ ဓာတ်အားပေးစက်အားလုံးသည် မလွန်ဆန်မတားဆီးနိုင်သော ဖြစ်ရပ်များမှအပ **"စာချုပ်ဝင် (ခ)"** ၏ ပျက်ကွက်မှု ကြောင့် ရက်ပေါင်း (၃၀) ဆက်တိုက် တစ်ပြိုင်နက်တည်း ဓာတ်အားထုတ်လုပ်ပေးပို့ နိုင်မှုမရှိခြင်း။

(ဂ) **"စာချုပ်ဝင် (ခ)"** သည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်ပျက်ကွက်ခြင်း (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်း။

(ဃ) "စာချုပ်ဝင် (ခ)" သည် စက်ရုံ၏ အင်ဂျင်နီယာပိုင်းဆိုင်ရာလုပ်ငန်းများ၊ ဒီဇိုင်း တည်ဆောက်ခြင်း (သို့မဟုတ်) လည်ပတ်မောင်းနှင်ခြင်းနှင့် ထိန်းသိမ်းခြင်းတို့ကို (၃၀) ရက် (သို့မဟုတ်) ထို့ထက်ပို၍ ဆောင်ရွက်မှုမရှိဘဲ ပစ်ပယ်ထားခြင်း၊ **"စာချုပ်ဝင် (က)"** ထံမှ အကြောင်းကြားစာရရှိပြီးနောက် -

(၁) **"စာချုပ်ဝင် (က)"** က သဘောတူထားသောကာလအတွင်း အဆိုပါလုပ်ငန်းများကို ပြန်လည်ဆောင် ရွက်လိုကြောင်း (၁၀) ရက်အတွင်း အကြောင်းပြန်ကြားရန် ပျက်ကွက်ခြင်း။

(၂) အဆိုပါသဘောတူကာလအတွင်း လုပ်ငန်းများ ပြန်လည်ဆောင်ရွက်ရန် ပျက်ကွက် ခြင်း။

**၁၄-၃ စာချုပ်ရပ်စဲခြင်း**

၁၄-၃-၁ အထက်အပိုဒ် (၁၄-၁) သို့မဟုတ် (၁၄-၂) ပါ ကိစ္စရပ်များဖြစ်ပေါ်လာပါက ပျက်ကွက်မှုမရှိသည့် စာချုပ်ဝင်သည် ပျက်ကွက်မှုဖြစ်ရပ်ကို ဖော်ပြ၍ ပျက်ကွက်မှုဖြစ်ပေါ်နေသည့် စာချုပ် ဝင်ထံသို့ အကြောင်းကြားစာ ပေးပို့ရမည်။ ပျက်ကွက်မှုဖြစ်ပေါ်နေသည့် စာချုပ်ဝင်သည် ထို အကြောင်းကြားစာ လက်ခံရရှိသည့်နေ့မှ ရက်ပေါင်း(၆၀)အတွင်း အဆိုပါပျက်ကွက်မှုကို ကုစားခွင့်ရှိသည်။ အကယ်၍ ပျက်ကွက်မှုဖြစ်ပေါ်နေသည့် စာချုပ်ဝင်သည် ထိုကာလအတွင်း ပျက်ကွက်မှုကို ကုစားရန် ထပ်မံပျက်ကွက်ပါက ပျက်ကွက်မှုမရှိသည့် စာချုပ်ဝင်မှ ဤသဘောတူစာချုပ်အား ချက်ချင်းရပ်စဲနိုင်သည်။

၁၄-၃-၂ ဤသဘောတူစာချုပ်ကို အောက်ဖော်ပြပါ အခြေအနေများမှ တစ်ခုခုဖြစ်ပွားမှုအပေါ်တွင်လည်း စာချုပ်ရပ်စဲနိုင်ပါသည် -

(က) မလွန်ဆန် မတားဆီးနိုင်သောဖြစ်ရပ်များ ဖြစ်ပွားခြင်းသည် ဆက်တိုက်(၃)ကြိမ်ထက် ပိုမိုဖြစ်ခြင်း။

(ခ) တစ်ဖက်စာချုပ်ဝင်က စာချုပ်ရပ်စဲလိုကြောင်း ရက်(၃၀) ကြိုတင်အကြောင်းကြားစာတစ်စောင်ထုတ်ပြန်၍ နှစ်ဖက်စလုံးက အပြန်အလှန် သဘောတူညီခြင်း။

(ဂ) **"စာချုပ်ဝင် (ခ)"**သည် ပြန်လည်ဖွဲ့စည်းခြင်း (သို့မဟုတ်) ပြန်လည်စုပေါင်းဖွဲ့စည်းခြင်း၏ အစိတ်အပိုင်းအဖြစ် မိမိသဘောအလျောက် ဖျက်သိမ်းခြင်း။

(ဃ) **"စာချုပ်ဝင် (ခ)"**သည် သဘောတူစာချုပ်ကို (သို့မဟုတ်) ၎င်း၏ မည်သည့်အခွင့် အရေးကိုမဆို အထွေထွေလွှဲအပ်ခြင်း (သို့မဟုတ်) ၎င်း၏ ကြွေးရှင်များအကျိုးအတွက် စက်ရုံကို အထွေထွေလွှဲအပ်ခြင်း။

(င) **"စာချုပ်ဝင် (ခ)"**သည် လူမွဲအဖြစ် မိမိသဘောအလျောက်ခံယူခြင်း (သို့မဟုတ်) မြီစား အဖြစ် မည်သည့်လူမွဲဖြစ်ခြင်း ဥပဒေအရမဆို လူမွဲအဖြစ် ဆုံးဖြတ်ခံရခြင်း။

## အခန်း (၁၅)

## အကျိုးသက်ရောက်မှုနှင့် ကာလအပိုင်းအခြား

၁၅-၁ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှ မည်သို့ပင်ဖြစ်စေ၊ နမ့်ပေါ်ရေအားလျှပ်စစ်ဓာတ် အားပေးစက်ရုံ၏ ပထမဆုံးဓာတ်အားပေးစက်မှ စီးပွားဖြစ် စတင် ဓာတ်အားထုတ်လုပ်ရောင်းချနိုင်သောနေ့မှ စတင်အာဏာသက်ရောက်မှုရှိစေရမည်ဖြစ်ပြီး၊ ဤသဘောတူစာချုပ်၏သက်တမ်းသည် ထိုနေ့မှစတင် ရေတွက်လျှင် နှစ်ပေါင်း ၅၀ (ငါးဆယ်) ပြည့်မြောက်သည့်နေ့အထိ ဖြစ်ရမည်။

၁၅-၂ ဤသဘောတူစာချုပ်၏ သက်တမ်းကုန်ဆုံးမည့်အချိန်တွင် ဤဓာတ်အားပေးစက်ရုံကို **စာချုပ်ဝင် (ခ)**က ဆက်လက်လုပ်ကိုင်လိုပါက၊ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၆) ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့သောပဋိညာဉ် စာချုပ်ပါအတိုင်း ဤသဘောတူစာချုပ်၏သက်တမ်း မကုန်ဆုံးမီ ၆ လ (ခြောက်လ) ကြိုတင်၍ စာချုပ်ဝင်များ သည် နှစ်ဖက်ညှိနှိုင်းကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြ အတည်ပြုချက် ဖြင့် တစ်ဆက်တည်း သက်တမ်းတိုးခွင့် (၁၀) နှစ် နှစ်ကြိမ်၊ ဤသဘောတူစာချုပ်ကို သက်တမ်းတိုး မြှင့်နိုင်သည်။

၁၅-၃ ဤသဘောတူစာချုပ်၏သက်တမ်းကုန်ဆုံးသည့်အချိန် (သို့မဟုတ်) ထပ်မံတိုးမြှင့်ခဲ့သည့် စာချုပ်သက်တမ်း ကုန်ဆုံးသည့်အချိန်တွင် မူလ "ပဋိညာဉ်စာချုပ်" ပါအတိုင်း **"စာချုပ်ဝင် (ခ)"**က နမ့်ပေါ်ရေအား လျှပ်စစ်စီမံကိန်းကို **"စာချုပ်ဝင် (က)"** ထံသို့ ဓာတ်အားပေးစက်ရုံ၌ ရင်းနှီးမြှုပ်နှံထားသော စက်ပစ္စည်းများ၊ တပ်ဆင်ထားသော စက်ကိရိယာများ၊ အဆောက်အဦ များ၊ တည်ဆောက်ထားသော မြေနေရာများကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေ အထားဖြင့် မည်သည့်အဖိုးစားနားမျှ မပါဘဲ၊ ၆ လ (ခြောက်လ) အတွင်း လွှဲပြောင်းပေးရမည်။

## အခန်း (၁၆)

## ပြောင်းလဲခြင်း၊ ဥပဒေနှင့်အညီလွှဲအပ်ခြင်း

၁၆-၁ ဤသဘောတူစာချုပ်ကို စာချုပ်ဝင်များ၏ စာဖြင့်ကြိုတင်သဘောတူညီချက်မရှိဘဲ ပြင်ဆင်ပြောင်းလဲဖြည့် စွက်ခြင်းမပြုရ။

၁၆-၂ စာချုပ်ဝင်များသည် စာချုပ်ပါအခွင့်အရေးနှင့် ဆောင်ရွက်ရန် လုပ်ငန်းတာဝန်များအားလုံး (သို့မဟုတ်) တစ်စိတ်တစ်ပိုင်းကို အခြားမည်သည့် တတိယအဖွဲ့သို့ အခြားစာချုပ်ဝင်၏ ကြိုတင်သဘောတူ ခွင့်ပြုချက် စာမရှိဘဲ လွှဲအပ်ခြင်းမရှိစေရ။

## အခန်း (၁၇)

## အငြင်းပွားမှုများဖြေရှင်းခြင်း

၁၇-၁ ဤသဘောတူစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်အကြား ကောင်း မွန်မျှတသော ပြေလည်မှုရရှိရေးအတွက် ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို

တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ထိုခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက် အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းများသည် ၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ ၅ ရက်နေ့တွင် ပြဋ္ဌာန်းထားသည့် အနုညာတ စီရင်ဆုံးဖြတ်ခြင်းဥပဒေနှင့် နောက် ပိုင်း ထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များ နှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့် နေရာသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ် များကို အမှုရှုံးသူက ကျခံရမည်။

## အခန်း (၁၈)

## အခွန်အခများ

### ၁၈-၁ "စာချုပ်ဝင် (ခ)" မှ ပေးချေရမည့်အခွန်အခများ

**"စာချုပ်ဝင် (ခ)"** သည် ဤသဘောတူစာချုပ်ပါ အခွင့်အရေးနှင့် တာဝန်များအရ ပေးချေရန် တာဝန်ရှိသော ပစ္စုပ္ပန်ကာလနှင့် အနာဂါတ်ကာလများတွင် ပြဋ္ဌာန်းထားသော အခွန်အခများ အားလုံးကို သတ်မှတ်ထားသည့် ကာလတွင် ပေးချေရမည်။ **"စာချုပ်ဝင် (ခ)"** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ တည်ဆဲ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အခြားဆက်စပ်သော ဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများအရ ပြဋ္ဌာန်းထားသော အခွန်များ၊ ဘဏ္ဍာငွေများ၊ အကောက်ခွန်နှင့် လိုက်လျောခွင့်များ၊ သက်သာခွင့်များ၊ ကင်းလွတ်ခွင့်များအားလုံးကို အဆိုပါအခွန်အခများ ပေးချေသည့်အခါတွင် ခံစားခွင့်ရှိသည်။

### ၁၈-၂ "စာချုပ်ဝင် (က)" မှ ပေးချေရမည့် အခွန်အခများ

**"စာချုပ်ဝင် (က)"** သည် ဤသဘောတူစာချုပ်ပါ အခွင့်အရေးနှင့် တာဝန်များအရ ပေးချေရန် တာဝန်ရှိသော ပစ္စုပ္ပန်ကာလနှင့် အနာဂါတ်ကာလများတွင် ပြဋ္ဌာန်းထားသော အခွန်အခများအားလုံးကို သတ်မှတ်ထားသည့် ကာလတွင် ပေးချေရမည်။

## အခန်း (၁၉)

## အခြားကိစ္စရပ်များ

### ၁၉-၁ လျှို့ဝှက်ထိန်းသိမ်းထားခြင်း

နှစ်ဖက်စာချုပ်ဝင်များသည် စာချုပ်ဝင်တစ်ဦးမှ ရရှိသောအချက်အလက် စာရွက်စာတမ်းများကို အများပြည်သူသို့ မရောက်ရှိစေရန် လျှို့ဝှက်ထိန်းသိမ်းထားရန် အာမခံချက်ပေးရမည်။ အချက်အလက်နှင့် စာရွက်စာတမ်းများကို မူရင်းပေးအပ်သူ၏ ခွင့်ပြုချက်မရရှိဘဲ တတိယအဖွဲ့သို့ အချက်အလက်အားလုံးကိုလည်ကောင်း၊ တစ်စိတ်တစ်ပိုင်းကိုလည်းကောင်း ထုတ်ဖော်ပြောဆိုခြင်းမပြုရ။

### ၁၉-၂ နောက်ဆက်တွဲများ

နောက်ဆက်တွဲ (၁) ဓာတ်အားပေးစက်ရုံ၏နည်းပညာပိုင်းဆိုင်ရာ အဓိကအချက်အလက်များ

နောက်ဆက်တွဲ (၂) ဓာတ်အားစနစ်၏ နည်းပညာပိုင်းဆိုင်ရာ အဓိကအချက်အလက်များ

နောက်ဆက်တွဲများသည် ဤစာချုပ်နှင့် တစ်ပေါင်းတစ်စည်းတည်းဖြစ်ပြီး တရားဝင်အကျိုး သက်ရောက်မှုမှာ အတူတူပင်ဖြစ်သည်။ သဘောတူစာချုပ်ပါ ပင်ရင်းစာသားများ၏ အဓိပ္ပါယ် ဖွင့်ဆိုချက်နှင့် နောက်ဆက်တွဲများအကြား ကွဲလွဲမှုရှိခဲ့လျှင် အငြင်းပွားသည့်ကိစ္စ၏ အခြေခံကို ဦးစွာစဉ်းစားရမည်ဖြစ်ပြီး အငြင်းပွားသောကိစ္စရပ်နှင့် အသက်ဆိုင်ဆုံးနှင့် အခြေခံအကျဆုံး သက်သက်အရ ဆုံးဖြတ်ရမည်။ အထက်ပါမူအား လိုက်နာဆောင်ရွက် ပြီးနောက်

ကွဲလွဲမှုနှင့် ရှေ့နောက်ဆန့်ကျင်မှုများရှိနေသေးလျှင် နှစ်ဖက်စာချုပ်ဝင်များအနေဖြင့် ဤသဘောတူစာချုပ်၏ ရည်ရွယ်ချက်အရ ရိုးဖြောင့်သော သဘောထားဖြင့် ညှိနှိုင်း ဖြေရှင်းရမည်။

## ၁၉-၃ ပြီးပြည့်စုံခြင်း

ဤသဘောတူစာချုပ် (နောက်ဆက်တွဲအပါအဝင်)သည် သဘောတူစာချုပ်ပါ ရည်ရွယ်ချက်များ အထမြောက်စေရန်အတွက် သဘောတူစာချုပ်အား စာချုပ်ဝင်များက လက်မှတ်ရေးထိုးပြီးချိန်မှစ၍ နှစ်ဖက်စာချုပ်ဝင်များအကြား ယခင်ဆွေးနွေးချက်များ၊ ညှိနှိုင်းချက်များ၊ သဘောတူညီချက်များနှင့် စာချုပ်များအားလုံးကို လွှမ်းမိုးလိုက်သည်။

## ၁၉-၄ အကြောင်းကြားစာနှင့် ပေးအပ်ခြင်း

(က) ဤသဘောတူစာချုပ်နှင့် ပတ်သက်သော မည်သည့်အကြောင်းကြားစာ၊ အထောက်အထား စာရွက်စာတမ်း၊ ငွေတောင်းခံလွှာနှင့် အခြားဆက်သွယ်မှုမျိုးကိုမဆို စာဖြင့် ရေးသားပေးပို့ရမည်။

(ခ) မှတ်ပုံတင်စာ၊ အမြန်ချောပို့ (သို့မဟုတ်) လူကိုယ်တိုင်ပေးပို့ခြင်းဖြစ်လျှင် လိပ်စာရှင်မှ လက်ခံရရှိကြောင်း လက်မှတ်ရေးထိုးပြီးလျှင် အကယ်၍ဖက်စ်ဖြင့် ပေးပို့ ခြင်းဖြစ်လျှင် လိပ်စာရှင်မှ လက်ခံရရှိချိန်တွင် အကြောင်းကြားစာအား လက်ခံရရှိပြီး ဟု မှတ်ယူရမည်။

(ဂ) အကြောင်းကြားစာ၊ စာရွက်စာတမ်းအထောက်အထား၊ ငွေတောင်းခံလွှာနှင့် အခြား ဆက်သွယ်မှု အားလုံးသည် ပေးပို့ပြီး (သို့မဟုတ်) လက်ခံရရှိပြီးနောက် အကျိုးသက် ရောက်မှုရှိစေရမည်။

(ဃ) အကြောင်းကြားစာများ၊ ငွေတောင်းခံလွှာများ၊ အချက်အလက် (သို့မဟုတ်) အထောက်အထား စာရွက်စာတမ်းများနှင့် အခြားဆက်သွယ်မှုများကို ဤသဘောတူ စာချုပ်တွင်ဖော်ပြထားသော လိပ်စာများကို ဆက်သွယ်ပေးပို့ရမည်။

(င) အကယ်၍ စာချုပ်ဝင်တစ်ဦးက လိပ်စာပြောင်းလဲရန် စာရေးသားအကြောင်းကြားလျှင် ပြောင်းလဲထားသောလိပ်စာသို့သာ ပေးပို့ရမည်။

စာချုပ်ဝင်များသည် အပြန်အလှန်ဆက်သွယ်ရန်နှင့် ဘဏ်လုပ်ငန်းများအတွက် အောက်ပါသတင်းအချက်အလက်များကို ထည့်သွင်းဖော်ပြထားပါသည် -

| | | |
|---|---|---|
| **"စာချုပ်ဝင် (က)"** ၏ အမည် | - | လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း၊<br>လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီး ဌာန |
| လိပ်မူရန် | - | ဦးဆောင်ညွှန်ကြားရေးမှူး |
| အီးမေးလ် | - | |
| တယ်လီဖုန်း | - | +၉၅ |
| ဖက်စ် | - | +၉၅ |
| လိပ်စာ | - | ရုံးအမှတ် (၂၇)၊ နေပြည်တော် |
| ဘဏ်စာရင်းအမည် | - | လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊<br>လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း |
| ဘဏ်အမည် | - | |
| ဘဏ်စာရင်းအမှတ် | - | |
| **"စာချုပ်ဝင် (ခ)"** ၏ အမည် | - | ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက် |
| လိပ်မူရန် | - | အုပ်ချုပ်မှုဒါရိုက်တာ |

| | | |
|---|---|---|
| အီးမေးလ် | - | saiohnmyint@greathorkham.com, info@greathorkham.com |
| တယ်လီဖုန်း | - | + ၉၅ ၈၂ ၅၂၂၆၆ |
| ဖက်စ် | - | |
| လိပ်စာ | - | ကလ-၁၅၊ ပြည်ထောင်စုလမ်းမကြီး၊ ကောင်းမူးလွယ်ရပ်ကွက်၊ မူဆယ်မြို့။ |
| ဘဏ်စာရင်းအမည် | - | |
| ဘဏ်စာရင်းနံပါတ် | - | 009 172 0000 874 (Kanbawza Bank) |

ဤသဘောတူစာချုပ်ပါ နောက်ဆက်တွဲများသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

စာကိုယ်အားလုံးသည် ညီတူညီမျှ မူမှန်ဖြစ်သော မြန်မာဘာသာဖြင့် နေပြည်တော်၌ ၂၀ ခုနှစ်၊ …………………လ ( ) ရက်နေ့တွင် စာချုပ်ဝင်အသီးသီးက မူရင်း (၃) စုံစီ လက်ကိုင်ထားရှိရမည့် မူရင်း (၆) စုံကို ပြုလုပ်ထားပါသည်။

သဘောတူစာချုပ်၏အစတွင် စာဖြင့်ရေးသားဖော်ပြခဲ့သော နေ့၊ လ၊ ခုနှစ်၌ နှစ်ဖက်စာချုပ်ဝင် များသည် အသိသက်သေများနှင့်အတူ ၎င်းတို့ကိုယ်တိုင် လက်မှတ်ရေးထိုး၍ ၎င်းတို့၏ တံဆိပ်ကို ရိုက်နှိပ် ကြသည်။

လက်မှတ်ရေးထိုး၊ တံဆိပ်ရိုက်၍ ဖြန့်ဝေပါသည်။

| | |
|---|---|
| လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း | ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက် |
| (ကိုယ်စား) | (ကိုယ်စား) |
| ……………………………… | ……………………………… |
| ဦးခင်မောင်ဝင်း | ဦးစိုင်းအုန်းမြင့် |
| ဦးဆောင်ညွှန်ကြားရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |
| လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း | ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက် |

ရှေ့မှောက်တွင်

| | |
|---|---|
| ၁။.................................... | ၁။.................................... |
| .................................... | ဦးစိုင်းရီမွန် |
| .................................... | ဒါရိုက်တာ (စီမံ) |
| လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း | ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက် |
| ၂။ .................................... | ၂။.................................... |
| .................................... | ဦးစိုင်းအောင်ကြည် |
| .................................... | ဒါရိုက်တာ (ဘဏ္ဍာ) |
| လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း | ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက် |

နောက်ဆက်တွဲ (၁) ဓာတ်အားပေးစက်ရုံ၏ နည်းပညာပိုင်းဆိုင်ရာ အဓိကအချက်အလက်များ

| စဉ် | | အကြောင်းအရာ | ယူနစ် | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|---|
| က | | ဇလဗေဒဆိုင်ရာအချက်အလက်များ<br>(Hydrological Parameters) | | | |
| | ၁ | ရေဆင်းဧရိယာ<br>(Catchment Area) | km2 | 1068 | |
| | ၂ | ပုံစံရေစီးနှုန်း<br>(Typical Flow) | m3/s | 1025 | |
| | | နှစ်စဉ်ပျမ်းမျှစီးဝင်ရေ<br>(Average Annual Flow) | m3/s | 32.6 | |
| | | တာဘိုင်ရေထုစီးနှုန်း<br>(Turbine rated discharge) | m3/s | 19.63x3 | |
| | | ဒီဇိုင်းအရရေထုစီးနှုန်း<br>(Design Flood, p=0.2%) | m3/s | 969 | |
| | | အမြင့်ဆုံးရေထုစီးနှုန်း<br>(Check Flood, P=0.02%+20%) | m3/s | 1463 | |
| ခ | | ရေလှောင်တမံဆိုင်ရာ<br>အချက်အလက်များ(Reservoir Parameters) | | | |
| | ၁ | ရေလှောင်ကန်ရေမျက်နှာပြင်အမြင့်<br>(Reservoir Water Level) | m | 805 | |
| | | အမြင့်ဆုံးရေမျက်နှာပြင်အမြင့်<br>(Maximum Water Level) | m | 805.96 | |
| | | ဒီဇိုင်းအရ ရေမျက်နှာပြင်အမြင့်<br>(Design Flood Water Level, P=0.2%) | m | 767 | To be checked, must higher than Daed Storage Level |
| | | ပုံမှန်ရေမျက်နှာပြင်အမြင့်<br>(Full Tank Level) | m | 805 | |
| | | အနိမ့်ဆုံးရေမျက်နှာပြင်အမြင့်<br>(Dead Storage Level) | m | 795 | |
| | ၂ | ရေလှောင်ပမာဏ<br>(Reservoir Volume) | | | |
| | | ကန်ရေပြည့်ရေလှောင်ပမာဏ<br>(Total Storage) | MCM | 51.71 | Below Checked |
| | | ကန်ရေပြည့်ရေလှောင်ပမာဏ<br>(Total Storage) (To be checked data) | MCM | 48.02 | Below Full Tank Level |

| | | | | | |
|---|---|---|---|---|---|
| | | အသုံးဝင်ရေလှောင်ပမာဏ<br>(Effective Storage) | MCM | 27.47 | |
| | | ကန်ရေသေရေလှောင်ပမာဏ<br>(Dead Storage) | MCM | 20.55 | |
| | ၃ | ရေထိန်းညှိခြင်းဆိုင်ရာ ထူးခြားသည့် သွင်ပြင်လက္ခဏာများ<br>(Characteristics of Regulation) | | ရာသီအလိုက်ထိန်းညှိခြင်း (Seasonal Regulation) | |
| ဂ | | လျှပ်စစ်စွမ်းအား ထုတ်လုပ်မှုဆိုင်ရာ အချက်အလက်များ | | | |
| | ၁ | တပ်ဆင်စက်အင်အား<br>(Installed Capacity) | MW | 20 (3unit x 6.67 MW) | |
| | ၂ | အခိုင်အမာထွက်ရှိမည့်ဓာတ်အား<br>(Firm Output) | MW | 6.95 | |
| | ၃ | နှစ်စဉ်ပျမ်းမျှထုတ်လုပ်သည့် လျှပ်စစ်စွမ်းအားပမာဏ<br>(Average Annual Output) | M.kWh | 85.39 | |
| | ၄ | စက်တစ်လုံး၏ ယုံကြည်စိတ်ချရပြီး တည်ငြိမ်စွာ လည်ပတ်နိုင်မည့် အတိုင်းအတာ | MW | 2.84 | |
| | ၅ | နှစ်စဉ်စက်လည်ပတ်သည့် နာရီပေါင်း<br>(Annual Operation Hour) | Hr | 4269 | |
| ဃ | | ဓာတ်အားစနစ်ချိတ်ဆက်ခြင်းဆိုင်ရာ အချက်အလက်များ | | | |
| | ၁ | ၆၆ ကေဗွီမဟာဓာတ်အားလိုင်း<br>(66 kV Transmission Line) | KM | ၆ | |
| | ၂ | ဓာတ်အားစနစ်၏ ပုံမှန်ဗို့အားအဆင့်<br>(System Normal Voltage Level) | kV | ၆၆ | |
| | ၃ | လျှပ်စစ်ပစ္စည်းများအတွက် အမြင့်ဆုံး ဗို့အား<br>(Maximum High Voltage) | kV | ၆၉ | |
| | ၄ | ဓာတ်အားစနစ်၏ သွင်အရေအတွက်နှင့် ကြိမ်နှုန်း<br>(Number of Phases and Frequency) | Hz | ၃ သွင်၊ 50 Hz | |
| | | | | | |
| | ၅ | အချိန်တိုအတွင်း လျှပ်စစ်စွမ်းအား ကြိမ်နှုန်းအရ ခံနိုင်ရမည့်ဗို့အား<br>(Short Time Power Frequency Withstand Voltage) | kV (r.m.s) | | |
| | ၆ | ရုတ်တရက်လျှပ်စီးလက်ချိန်ခံနိုင်ရမည့် ဗို့အား<br>(Lightning Impulse Withstand Voltage) | kV (peak) | | |
| | ၇ | န-ကြိုး မြေဓာတ်ချသည့်နည်းလမ်း<br>(Method of Neutral Grounding) | | တိုက်ရိုက်မြေဓာတ်ချခြင်း | |

နောက်ဆက်တွဲ (၂) ဓာတ်အားစနစ်၏ နည်းပညာပိုင်းဆိုင်ရာ အဓိကအချက်အလက်များ

| စဉ် | အကြောင်းအရာ | ယူနစ် | ကိန်းဂဏန်း | မှတ်ချက် |
|---|---|---|---|---|
| ၁ | ဓာတ်အားစနစ်ဗို့အား | kV | ၆၆ | ခွင့်ပြုနိုင်သောဗို့အား အတက်အကျ ±၅% |
| ၂ | ဓာတ်အားစနစ်ကြိမ်နှုန်း | Hz | ၅၀ | ခွင့်ပြုနိုင်သော ကြိမ်နှုန်းအတက်အကျ ±၄၉.၅ ~ ၅၀.၅ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရှမ်းပြည်နယ်အစိုးရအဖွဲ့

လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန

နှင့်

ဂရိတ်ပေါ်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်

တို့အကြားချုပ်ဆိုသော

ရှမ်းပြည်နယ်(မြောက်ပိုင်း)၊

မူဆယ်မြို့၊ နမ့်ပေါ်ချောင်းပေါ်ရှိ

ရေအားလျှပ်စစ် ထုတ်လုပ်ခြင်းစီမံကိန်း

ဖွံ့ဖြိုးတိုးတက်မှုဆိုင်ရာ

# နားလည်မှုစာချွန်လွှာ

(M.O.U.)

နေရာ၊ တောင်ကြီးမြို့

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ( ၇ ) ရက်

**ရှမ်းပြည်နယ် (မြောက်ပိုင်း) မူဆယ်မြို့ နမ့်ပေါ်ချောင်းရှိ (၁၅)မဂ္ဂါဝပ် နမ့်ပေါ်ရေအားလျှပ်စစ် ထုတ်ဖော်ခြင်း ဆိုင်ရာစီမံကိန်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့် နားလည်မှုစာချွန်လွှာ ( M.O.U.) ။**

ဤနားလည်မှုစာချွန်လွှာကို ၂၀၁၄ခုနှစ်၊ အောက်တိုဘာလ (၇) ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရှမ်းပြည်နယ်အစိုးရအဖွဲ့ ကိုယ်စားပြုသော ဦးစိုင်းထွန်းရင် ၊ ပြည်နယ်လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး ( နောင်တွင် " **စီမံကိန်းအကောင်အထည်ဖော်ခွင့်ပြုသူ** "ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည် )ကတစ်ဖက်

နှင့်

ဦးစိုင်းအုန်းမြင့် ၊ အုပ်ချုပ်မှုဒါရိုက်တာ ကိုယ်စားပြုသော အမှတ် - (ကလ၊ ၁၅)၊ ပြည်ထောင်စုလမ်းမ၊ ကောင်းမူး လွယ်ရပ် ၊ မူဆယ်မြို့ ၌တည်ရှိသော Great Hor Kham Public Co;Ltd. ( နောင်တွင် " **စီမံကိန်းအကောင်အထည်ဖော်သူ**" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရလွှဲအပ်ခြင်း ခံရသူများပါဝင်သည် )က အခြားတစ်ဖက်တို့သည် ဤနားလည်မှုစာချွန်လွှာ ( M.O.U. )ကို ချုပ်ဆိုကြပါသည်။

**အပိုင်း – ၁**

**ရည်ရွယ်ချက်**

၁။ အောက်ပါအတိုင်း ရည်ရွယ်ချက်ထားရှိပါသည် –

၁.၁ ရှမ်းပြည်နယ်အစိုးရအဖွဲ့သည် နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းကို ပုဂ္ဂလိကအဖွဲ့အစည်းတစ်ခုအား (တည်ဆောက်၊ ပိုင်ဆိုင်၊လုပ်ကိုင်)စနစ် ( Build, Own, Operate ) **B.O.O.** ဖြင့် ဆောင်ရွက်စေရန် ရည်မှန်းချက်ဖြင့်လည်းကောင်း၊

၁.၂ Great Hor Kham Public Company Limited အနေနှင့် မြန်မာနိုင်ငံအတွင်း (တည်ဆောက်၊ ပိုင်ဆိုင်၊ လုပ်ကိုင်)စနစ် ( Build, Own, Operate) **B.O.O.** ဖြင့် စံပြဆောင်ရွက်မည့် နမ့်ပေါ်ရေအားလျှပ်စစ် စီမံကိန်းကို ပါဝင်ဆောင်ရွက်အကောင်အထည်ဖော်ရန် ဆန္ဒရှိသဖြင့် လည်းကောင်း၊

၁.၃ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်မြို့ နမ့်ပေါ်ချောင်းပေါ်ရှိ ရေအားလျှပ်စစ် ထုတ်လုပ်ခြင်း စီမံကိန်းကို တည်ဆောက်ပြီး ထွက်ရှိလာသော လျှပ်စစ်ဓါတ်အားကို ဒေသအတွင်းအသုံးပြုကာ ပိုလျှံသောဓါတ်အားကို နိုင်ငံတော်ပိုင် မဟာဓါတ်အားလိုင်းအတွင်း ထည့်သွင်းရန် ရည်မှန်းချက် ထားရှိပါသည်။

## အပိုင်း – ၂

## အဓိပ္ပာယ်ဖွင့်ဆိုချက်

ဤနားလည်မှုစာချွန်လွှာတွင် နောင်သုံးမည့် စကားရပ်များအတွက် အဓိပ္ပါယ်ဖွင့်ဆိုချက်မှာ အောက်ပါအတိုင်း ဖြစ်သည် –

၂.၁ **ပြည်နယ်အစိုးရ** ဆိုသည်မှာ ရှမ်းပြည်နယ်အစိုးရအဖွဲ့ကို ဆိုသည်။

၂.၂ **ပြည်နယ်ဝန်ကြီး** ဆိုသည်မှာ ပြည်နယ်အစိုးရအဖွဲ့ဝင် ပြည်နယ်လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးကို ဆိုသည်။

၂.၃ **စီမံကိန်း** ဆိုသည်မှာ မူဆယ်မြို့ နမ့်ပေါ်ချောင်း ရေအားလျှပ်စစ်စီမံကိန်းကို ဆိုသည်။

၂.၄ **စီမံကိန်းအကောင်အထည်ဖော်ခွင့်ပြုသူ** ဆိုသည်မှာ မူဆယ်မြို့ နမ့်ပေါ်ချောင်း ရေအားလျှပ်စစ်စီမံကိန်းလုပ်ငန်း အဝဝကို အကောင်အထည်ဖော်ဆောင်ရွက်ရန် အပ်နှံခွင့်ပြုသည့် ပြည်နယ်လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးကို ဆိုသည်။

၂.၅ **စီမံကိန်းအကောင်အထည်ဖော်သူ** ဆိုသည်မှာ မူဆယ်မြို့ နမ့်ပေါ်ချောင်း ရေအားလျှပ်စစ်စီမံကိန်းလုပ်ငန်း အဝဝကို အကောင်အထည်ဖော် ဆောင်ရွက်ရန် အပ်နှံခြင်းခံရသည့်ကုမ္ပဏီကို ဆိုသည်။

၂.၆ **စာချုပ်ဝင်များ** ဆိုသည်မှာ ဤနားလည်မှုစာချွန်လွှာတွင် ခေါ်ဝေါ်သုံးစွဲသည့် " စီမံကိန်းအကောင်အထည် ဖော်ခွင့်ပြုသူ" နှင့် " စီမံကိန်းအကောင်အထည်ဖော်သူ"တို့အား ရည်ညွှန်းဖော်ပြသည့် " စကားရပ်" ဖြစ်သည်။

၂.၇ **ဖြစ်နိုင်ခြေလေ့လာမှု (Feasibility Study)** ဆိုသည်မှာ အဆိုပြုစီမံကိန်းတစ်ရပ်၏ ဖြစ်နိုင်ခြေများနှင့် စပ်လျဉ်း၍ ဆုံးဖြတ်ချက်ချမှတ်သည့် လုပ်ငန်းစဉ်ကို အထောက်အကူပြုရန် ကျယ်ပြန့်စွာ စုံစမ်းလေ့လာမှုနှင့် သုတေသနပြုမှုကို အခြေပြု၍ အကဲဖြတ်ခြင်းနှင့် အနုစိတ်လေ့လာခြင်းကို ဆိုသည်။

**ဖြစ်နိုင်ခြေလေ့လာမှု(Feasibility Study)**ဟု ဆိုရာတွင် အောက်ပါနယ်ပယ်များကို ရည်ညွှန်းခြင်းဖြစ်ပါသည်။

(၁) နည်းပညာနှင့်စနစ်ဖြစ်နိုင်ခြေ ( Technology and system Feasibility )

(၂) ဥပဒေအရ ဖြစ်နိုင်ခြေ (Legal Feasibility )

(၃) လုပ်ငန်းဆောင်ရွက်မှုဖြစ်နိုင်ခြေ ( Operational Feasibility )

(၄) စီးပွားရေးအရ ဖြစ်နိုင်ခြေ ( Economic Feasibility )

(၅) အချိန်ဇယားဖြစ်နိုင်ခြေ ( Schedule Feasibility )

## အပိုင်း – ၃

## ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း

၃။ ဤနားလည်မှုစာချွန်လွှာကို ချုပ်ဆိုကြသော စာချုပ်ဝင်များသည် ဤစာချုပ်ကို ချုပ်ဆိုရန်အတွက် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ စာချုပ် ချုပ်ပိုင်ခွင့်ရှိကြောင်း၊ လုပ်ပိုင်ခွင့် အခွင့်အာဏာနှင့် စီးပွားရေးအရ ခိုင်မာတောင့်တင်းမှုရှိကြောင်း အသီးသီးကိုယ်စားပြု အာမခံကြသည်။ ( စီမံကိန်း အကောင်အထည်ဖော်သူမှ ကုမ္ပဏီနှင့် စပ်လျဉ်း၍ အထောက်အထားများကို နောက်ဆက်တွဲ 'က'၊ ပြည်နယ်အစိုးရအဖွဲ့၏ စီမံကိန်းလုပ်ငန်း လုပ်ဆောင်ခွင့်ပြုသည့်အထောက်အထား– နောက်ဆက်တွဲ 'ခ' )

## အပိုင်း – ၄

## စီမံကိန်းတည်နေရာနှင့် အကျယ်အဝန်း

၄။ စာချုပ်ဝင်များသည် ဤစီမံကိန်းကို အကောင်အထည်ဖော်ရန်အတွက် စီမံကိန်းတည်ရှိရာနေရာနှင့် အကျယ်အဝန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

စီမံကိန်းတည်နေရာ = မူဆယ်ခရိုင်၊ မူဆယ်မြို့ မန့်မိုင်ကျေးရွာအနီး နမ့်ပေါ်ချောင်း၊

( ဦးပိုင်အမှတ်၊ L.G- A.B.C.D.E =၈.၂၀ + F.G.H.I.J = ၁.၈၀)

စီမံကိန်းဧရိယာ = (၁၀)ဧက

မူဆယ်မြို့ နမ့်ပေါ်ချောင်း ရေအားလျှပ်စစ်ထုတ်လုပ်ခြင်း စီမံကိန်းတည်ရှိရာနေရာ ( နောက်ဆက်တွဲ 'ဂ' )

## အပိုင်း – ၅

## လုပ်ငန်းအစီအစဉ်

၅.၁ စီမံကိန်းအကောင်အထည်ဖော်သူသည် စီမံကိန်းအဆိုပြုလွှာကို တင်ပြပါသည်။ (နောက်ဆက်တွဲ – 'ဃ')

၅.၂ ယင်းအဆိုပြုစီမံကိန်းနှင့် စပ်လျဉ်း၍ စီမံကိန်းအကောင်အထည်ဖော်သူမှ အောက်ပါလုပ်ငန်းစဉ်များကို (၆)လအတွင်း ပြည်နယ်လျှပ်စစ်ဝန်ကြီးသို့ တင်ပြရမည် –

(က) ဖြစ်နိုင်ခြေလေ့လာမှုအစီရင်ခံစာ (Feasibility Study Report )

( ခ ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် (Environmental Impact Assessment – E.I.A.)

( ဂ ) ဒေသပြည်သူများ၏ ကျန်းမာရေး၊ လူမှုရေးနှင့် စီးပွားရေးတို့အပေါ် ထိခိုက်မှု ဆန်းစစ်လေ့လာချက် (Social Impact Assessment – S.I.A.)

(ဃ) ပတ်ဝန်းကျင်ဆိုင်ရာ အုပ်ချုပ်လုပ်ကိုင်မှု စီမံချက် (Environmental Management Plan)

( င ) Concept Plan .

## အပိုင်း – ၆

## စီမံကိန်းအကောင်အထည်ဖော်ခွင့်ပြုသူ၏တာဝန်များ

၆။ စီမံကိန်းအကောင်အထည်ဖော်ခွင့်ပြုသူသည် –

(က) ဤနားလည်မှုစာချွန်လွှာနှင့် စပ်လျဉ်း၍ အပိုဒ် ၅ တွင် ဖော်ပြထားသည့်လုပ်ငန်းစဉ်များကို စီမံကိန်း အကောင်အထည်ဖော်သူမှ လုပ်ဆောင်ရာ၌ လိုအပ်သော အကူအညီကိုပေးမည်။

( ခ ) စီမံကိန်းလုပ်ငန်း တည်ရှိရာ ဧရိယာအတွင်း မြေအသုံးချမှုရရှိရေး ဆောင်ရွက်ပေးမည်။

( ဂ ) လိုအပ်သော သတင်းအချက်အလက်များကို ကူညီပေးရမည်။

(ဃ) သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများနှင့် လိုအပ်သလိုညှိနှိုင်းဆောင်ရွက်ပေးမည်။

( င ) စီမံကိန်းဆိုင်ရာ လျာထားသောဒေသများကို ဝင်ရောက်လေ့လာခွင့်ပြုမည်။

( စ ) ဤစီမံကိန်းတွင် ပါဝင်ဆောင်ရွက်သော ပုဂ္ဂိုလ်နှင့် အသုံးပြုသော ပစ္စည်းများ၏ ကန့်သတ် ဧရိယာအတွင်း လုံခြုံရေးအတွက် စီစဉ်ဆောင်ရွက်ပေးမည်။

(ဆ) ဤစီမံကိန်းတွင် လိုအပ်သောယမ်းနှင့် ဆက်စပ်ပစ္စည်း ( Detonator and fuse ) စသည်တို့ကို အစိုးရ အဖွဲ့၏ သဘောတူညီချက်နှင့်အညီ တင်သွင်းခွင့်၊ သယ်ယူခွင့်၊ အသုံးပြုခွင့် ပြုပေးမည်။

( ဇ ) ဤလုပ်ငန်းစီမံကိန်း အကောင်အထည်ဖော်ခြင်းနှင့် စပ်လျဉ်း၍ အခြားအာဏာပိုင် အဖွဲ့အစည်းများ သို့မဟုတ် ပုဂ္ဂိုလ်အဖွဲ့အစည်းများနှင့် လိုအပ်သော ဆွေးနွေးမှုများ၊ ရှင်းလင်းတင်ပြမှုများ ပြုလုပ်ရာတွင် လုပ်ငန်းစီမံကိန်း အကောင်အထည်ဖော်သူအား အကူအညီပေးမည်။

## အပိုင်း – ၇

## စီမံကိန်းအကောင်အထည်ဖော်သူ၏တာဝန်များ

၇.၁ စီမံကိန်းအကောင်အထည်ဖော်သူသည် –

(က) ဤနားလည်မှုစာချွန်လွှာ၏ အပိုဒ် ၅ ဖော်ပြပါ လုပ်ငန်းစဉ်များကို (၆)လအတွင်း ပြီးစီးအောင် ဆောင်ရွက် ရမည်၊

( ခ ) မြေအသုံးချမှုရရှိရေးအတွက် ဆောင်ရွက်ရာတွင် ဒေသခံများ၏ကျေနပ်သဘောတူညီမှု ရယူရမည်၊

(ဂ) လုပ်ငန်းတိုးတက်မှု အစီရင်ခံစာကို ဝန်ကြီးထံသို့ တင်ပြရမည်၊

(ဃ) လုပ်ငန်းစဉ်များကို အကောင်အထည်ဖော်ဆောင်ရွက်ရာ၌ ကုန်ကျစရိတ်များကို ကျခံရမည်၊

(င) ဤနားလည်မှုစာချွန်လွှာ လက်မှတ်ရေးထိုးပြီး ရက်ပေါင်း (၆၀)အတွင်း လုပ်ငန်းများကို စတင်ဆောင်ရွက်ရမည်။

(စ) စီမံကိန်းအား အပိုင်းလိုက် လုပ်ငန်းဆောင်ရွက်မည့် အဆိုပြုစီမံချက် (Working schedule with phase by phase concept Plan .) ပြုစုတင်ပြရမည်။

### အပိုင်း – ၈
### နားလည်မှုစာချွန်လွှာ၏ အကျိုးသက်ရောက်မှုနှင့် သက်တမ်း

၈။ ဤနားလည်မှုစာချွန်လွှာသည် စာချုပ်ဝင်များ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။ နားလည်မှုစာချွန်လွှာ၏ သက်တမ်းသည် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၆)လဖြစ်သည်။ ဤနားလည်မှုစာချွန်လွှာ၏ သက်တမ်းကို ပြည်နယ်အစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့် တိုးမြှင့်နိုင်သည်။

### အပိုင်း– ၉
### စာချုပ်အား လွှဲပြောင်းခြင်း

၉။ နှစ်ဦးနှစ်ဖက် ကြိုတင်သဘောတူ ခွင့်ပြုချက်မရဘဲ ဤနားလည်မှုစာချွန်လွှာပါ သဘောတူသည့်လုပ်ငန်းအားလုံးကိုဖြစ်စေ၊ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုဖြစ်စေ လွှဲပြောင်းခြင်း၊ အပ်နှံဆောင်ရွက်ခြင်းတို့ကို မပြုလုပ်ရ။

### အပိုင်း– ၁၀
### စာချုပ်အား ပြင်ဆင်ဖြည့်စွက်ခြင်း

၁၀။ ဤနားလည်မှုစာချွန်လွှာအား နှစ်ဖက်စာဖြင့် သဘောတူညီမှုမပါဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ ဤနားလည်မှုစာချွန်လွှာအား ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများသည် နှစ်ဖက်စာဖြင့် သဘောတူညီမှသာလျှင် အတည်ဖြစ်စေရမည်။

## အပိုင်း–၁၁

## မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၁၁.၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ဆိုသည်မှာ သဘာဝအလျှောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်းဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် MOU ပါ လုပ်ငန်းစဉ်များကို ထိခိုက်မဆုံးရှုံးစေလျှင် စီမံကိန်းအကောင်အထည်ဖော်သူသည် စီမံကိန်းအကောင်အထည်ဖော်ခွင့်ပြုသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့် မရှိစေရ။

၁၁.၂ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက ၊ ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း စီမံကိန်းအကောင်အထည်ဖော်သူသည် စီမံကိန်းအကောင်အထည်ဖော်ခွင့်ပြုသူသို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ စီမံကိန်းအကောင်အထည်ဖော်ခွင့်ပြုသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်ပြီး၊ လုပ်ငန်းနှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် စီမံကိန်းအကောင်အထည်ဖော်သူ၏တာဝန်ကို သက်သာခွင့်ပြုနိုင်သည်။

## အပိုင်း– ၁၂

## ရုပ်စဲခြင်း

၁၂.၁ ဤနားလည်မှုစာချွန်လွှာကို အောက်ဖော်ပြပါ အချက်အလက်များအနက် တစ်ခုခုဖြစ်ပေါ်လာပါက မည်သည့်ဖက်ကမဆို ရက်ပေါင်း (၉၀) ကြိုတင်အသိပေးပြီး စာချုပ်ရုပ်စဲနိုင်သည်။

(က) ဖြစ်မြောက်နိုင်စွမ်းလေ့လာမှု၊ သဘာဝပတ်ဝန်းကျင်/လူမှုရေးထိခိုက်မှု ဆန်းစစ်ချက်များအရ စီမံကိန်းဖြစ်မြောက်နိုင်စွမ်း မရှိကြောင်း တွေ့ရှိခြင်း။

(ခ ) ဤစီမံကိန်းကို ရက်ပေါင်း (၆၀) ပြည့်မြောက်ပြီးဖြစ်သော်လည်း စီမံကိန်းအကောင်အထည်ဖော်သူမှ စတင် အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု မရှိသေးခြင်း။

(ဂ ) မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုခု ပေါ်ပေါက်ပါက (၃)လကာလနှင့်အထက် ဆက်တိုက်ဖြစ်ပွားနေခြင်းကြောင့် ဤနားလည်မှုစာချွန်လွှာပါ အချက်များအား လိုက်နာဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(ဃ) တစ်ဖက်ဖက်မှ စာချုပ်ပါစည်းကမ်းချက်များအား ဖောက်ဖျက်ခြင်း။

(င ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

၁၂.၂ စာချုပ်ဝင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူညီချက်ရယူ၍ ပြည်နယ်အစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့် ရပ်စဲနိုင်သည်။

၁၂.၃ ဤနားလည်မှုစာချွန်လွှာကို ရပ်စဲခြင်းအားဖြင့် စာချုပ်ပါ ရှေ့ဆက်လက်ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများ၊ လုပ်ပိုင်ခွင့်များ၊ လုပ်ငန်းဆောင်ရွက်ရန် အချက်အလက်များအားလုံး၊ လုံးဝပြီးပြတ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

### အပိုင်း – ၁၃
### အငြင်းပွားမှုကိုဖြေရှင်းခြင်း

၁၃.၁ ဤနားလည်မှုစာချွန်လွှာနှင့် စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။

၁၃.၂ ထိုသို့ဖြေရှင်း၍မရပါက တည်ဆဲဥပဒေများနှင့်အညီ စီရင်ပိုင်ခွင့်ရှိ တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

### အပိုင်း– ၁၄
### အထွေထွေ

၁၄.၁ စီမံကိန်းအကောင်အထည်ဖော်သူသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများနှင့် စည်းမျဉ်းများကို လိုက်နာရမည်ဖြစ်ပြီး၊ စီမံကိန်းအကောင်အထည်ဖော်လျက်ရှိသော လုပ်ငန်းစဉ်တစ်ခုလုံးတွင်လည်း ဒေသဆိုင်ရာ အစဉ်အလာများနှင့် ဓလေ့ထုံးတမ်းများကို လေးစားရမည်။

၁၄.၂ ဤနားလည်မှုစာချွန်လွှာ သက်တမ်းပြည့်ပြီး နောက်ရက်ပေါင်း (၉၀)အတွင်းတွင် နားလည်မှုသဘောတူညီချက် စာချုပ် Memoradum of Agreement (M.O.A.) ကို ချုပ်ဆိုရမည်။

၁၄.၃ ဤနားလည်မှုစာချွန်လွှာသည်သာလျှင် နှစ်ဦးနှစ်ဖက်အတည်ပြုထားသော သဘောတူညီချက် ဖြစ်သည်။ ဤကိစ္စနှင့်စပ်လျဉ်း၍ ယခင်ကနှုတ်ဖြင့်သော်လည်းကောင်း ၊ စာဖြင့်သော်လည်းကောင်း ၊ သဘောတူညီချက်ရှိခဲ့လျှင် ထိုသဘောတူညီချက်များကို ဆက်လက်၍ အကျိုးသက်ရောက်မှု မရှိစေရ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်

UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း

REVENUE STAMP

၅၀၀၀ကျပ် ငွေငါးထောင်ကျပ် K 5000



၁၄.၄ ဤနားလည်မှုစာချွန်လွှာနှင့် စပ်လျဉ်း၍ အကြောင်းကြားစာ နှင့် အခြားဆက်သွယ်မှုများကို စာတိုက်၊ စကားပြော ကြေးနန်း၊ တဲလက်စ်၊ ဖက်စ်၊ ကြိုးမဲ့ကြေးနန်း၊ ကြေးနန်းတို့ဖြင့် ပေးပို့သူက ကျသင့်ငွေ ကြိုတင်ပေးချေ၍ ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ရာတွင် အောက်ဖော်ပြပါ လိပ်စာများအတိုင်း ဆက်သွယ်ဆောင်ရွက်ရမည်။

**စီမံကိန်းအကောင်အထည်ဖော်ခွင့်ပြုသူ**

အမည် ဦးစိုင်းထွန်းရင်

ရာထူး လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး

ဌာန ရှမ်းပြည်နယ်အစိုးရအဖွဲ့ တောင်ကြီးမြို့

Fax; ၀၈၁ – ၂၀၂၁၅၉

**စီမံကိန်းအကောင်အထည်ဖော်သူ**

အမည် ဦးစိုင်းအုန်းမြင့်

ရာထူး အုပ်ချုပ်မှုဒါရိုက်တာ

မှတ်ပုံတင်အမှတ်၊ ၁၃/မဆတ(နိုင်)၀၁၂၉၀၈

ဌာန ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက်

Fax; ၀၈၂-၅၂၂၆၆

ဤနားလည်မှုစာချွန်လွှာအား ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ( ၇ )ရက်နေ့တွင် အောက်ပါအသိသက်သေများရှေ့၌ လက်မှတ်ရေးထိုးကြပါသည်။

**စီမံကိန်းအကောင်အထည်ဖော်ခွင့်ပြုသူ**

၁။

လက်မှတ် ----------------------

အမည် ဦးစိုင်းထွန်းရင်

ရာထူး လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး

ဌာန ရှမ်းပြည်နယ်အစိုးရအဖွဲ့ တောင်ကြီးမြို့

**စီမံကိန်းအကောင်အထည်ဖော်သူ**

၁။

လက်မှတ် ----------------

အမည် ဦးစိုင်းအုန်းမြင့်

ရာထူး အုပ်ချုပ်မှုဒါရိုက်တာ

မှတ်ပုံတင်အမှတ်၊ ၁၃/မဆတ(နိုင်)၀၁၂၉၀၈

ဌာန ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက်

ကျွန်ုပ်တို့၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း
REVENUE STAMP

၅၀၀၀ကျပ် ငွေငါးထောင်ကျပ် K 5000



## အသိသက်သေများ

၁။

| | |
|---|---|
| လက်မှတ် | ---------------------- |
| အမည် | ဦးအောင်ကျော်ညွန့် |
| ရာထူး | စီမံ/ စီးပွားရေးဝန်ကြီး |
| ဌာန | ရှမ်းပြည်နယ်အစိုးရအဖွဲ့ တောင်ကြီးမြို့ |

၁။

| | |
|---|---|
| လက်မှတ် | ---------------------- |
| အမည် | ဦးစိုင်းရှိမွန် |
| ရာထူး | ဒါရိုက်တာ |
| မှတ်ပုံတင်အမှတ်၁၃/မဆတ(နိုင်)၀၀၀၀၄၅ | |
| နေရပ်လိပ်စာ | ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက် |

၂။

| | |
|---|---|
| လက်မှတ် | ---------------------- |
| အမည် | ဦးမြင့်အောင် |
| ရာထူး | အတွင်းရေးမှူး |
| ဌာန | ရှမ်းပြည်နယ်အစိုးရအဖွဲ့ တောင်ကြီးမြို့ |

၂။

| | |
|---|---|
| လက်မှတ် | ---------------------- |
| အမည် | ဦးစိုင်းအောင်ကြည် |
| ရာထူး | ဒါရိုက်တာ |
| မှတ်ပုံတင်အမှတ်၁၃/မဆတ(နိုင်)၀၀၅၅၀၂ | |
| နေရပ်လိပ်စာ | ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက် |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

## လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန

နှင့်

## ဂရိတ်ပေါ်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်

တို့အကြား

## နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းအား

**Build, Operate and transfer (B.O.T)**

(တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်လွှဲပြောင်းပေးခြင်း)စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

## ပဋိညာဉ်စာချုပ်

၂၀၁၆ ခုနှစ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန

နှင့်

ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်
တို့အကြား

နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းအား

Build, Operate and Transfer (B.O.T)
(တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်
ပဋိညာဉ်စာချုပ်

၂၀၁၆ ခုနှစ်

**နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းကို**

**B.O.T (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့်**

**လုပ်ငန်းဆောင်ရွက်ရန်အတွက် လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနနှင့်**

**ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်**

**တို့အကြား ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ်**

ဤပဋိညာဉ်စာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်တွင် ၂၀၁၆ ခုနှစ်၊ မတ်လ၊ ( ၁၆ ) ရက်နေ့၌ **ညွှန်ကြားရေးမှူးချုပ်၊ ဒေါ်မိမိခိုင်** ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအောက်ရှိ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန၊ အဆောက်အဦအမှတ် (၂၇)၊ နေပြည်တော် (ဤမှနောင်တွင် **"လုပ်ငန်းခွင့်ပြုသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

**အုပ်ချုပ်မှုဒါရိုက်တာ၊ ဦးစိုင်းအုန်းမြင့်** ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသောကုမ္ပဏီဖြစ်သည့် ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်၊ အမှတ်၊ (ကလ၊ ၁၅)၊ ပြည်ထောင်စုလမ်းမ၊ ကောင်းမှုလွယ်ရပ်၊ မူဆယ်မြို့ (ဤမှနောင်တွင် **"လုပ်ငန်းလုပ်ကိုင်သူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည်) က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

**နိဒါန်း**

(က) ရှမ်းပြည်နယ်မြောက်ပိုင်း၊ မူဆယ်မြို့နယ်၊ မန်းဟန်ကျေးရွာအနီး၊ နမ့်ပေါ်ချောင်း ရေအရင်းအမြစ်ကို အသုံးပြု၍ နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း (၂၀ မဂ္ဂါဝပ်) အား အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် ရှမ်းပြည်နယ်အစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံသားပိုင် ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်တို့သည် နားလည်မှုစာချွန်လွှာ (MOU) အား (၇-၁၀-၂၀၁၄) ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ကြခြင်းကို ထောက်ဆ၍လည်းကောင်း၊

(ခ) နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းမှ ထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ဒေသတွင်းအသုံးပြု၍ ပိုလျှံမည့်လျှပ်စစ်ဓာတ်အား (၁၈ မဂ္ဂါဝပ်) အား နိုင်ငံတော်ပိုင် ဓာတ်အားလိုင်းသို့ ချိတ်ဆက်ဖြန့်ဖြူးမည်ဖြစ်ရာ ဖွဲ့စည်းပုံအခြေခံ ဥပဒေ ၂၀၀၈ ၊ ဇယား (၂) အရ ပြည်ထောင်စုက စီမံခန့်ခွဲခွင့်ရှိသည့် ရေအားလျှပ်စစ်စီမံကိန်းတစ်ခုအဖြစ် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်နိုင်ရေးအတွက် စီမံကိန်းဆိုင်ရာ စာချုပ်စာတမ်းများနှင့် အစီရင်ခံစာများအား ရှမ်းပြည်နယ်အစိုးရမှ လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ လွှဲပြောင်းပေးပို့လာခြင်းကို ထောက်ဆ၍လည်းကောင်း၊

(ဂ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် စီမံကိန်းမှ နှစ်စဉ်ပျမ်းမျှထုတ်လုပ်မည့် ဓာတ်အားကီလိုဝပ်နာရီသန်းပေါင်း (၈၃.၃၀) (ဤမှနောင်တွင် **"လျှပ်စစ်စီမံကိန်း"** ဟု ရည်ညွှန်းခေါ်ဆိုမည်။) အနက်မှ ဒေသတွင်း အသုံးပြုပြီး ပိုလျှံမည့် လျှပ်စစ်ဓာတ်အားများကို မဟာဓာတ်အားလိုင်းသို့ ချိတ်ဆက်ဖြန့်ဖြူးခွင့် ပြုနိုင်ရေးအတွက် B.O.T. (တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းပေးခြင်း) စနစ်ဖြင့် ဆောင်ရွက်မည့် စီမံကိန်းဆိုင်ရာ ပဋိညာဉ်စာချုပ်အား လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် ရေးထိုးပြီး စီမံကိန်းအကောင်အထည်ဖော်ရန် ရည်ရွယ်၍လည်းကောင်း၊

ဤပဋိညာဉ်စာချုပ်ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူကြပါသည် -

**အဓိပ္ပါယ်ဖွင့်ဆိုချက်များ**

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူပိုင် စက်ယန္တရားများ"** ဆိုသည်မှာ ဤ **"လျှပ်စစ်စီမံကိန်း"** ကို ပြီးစီးအောင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့် အစိတ်အပိုင်းများ ပြန်လည်ပြုပြင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ အသုံးပြုမည့်စက်၊ ယာဉ်၊ ယန္တရားများ၊ စက်သုံးကိရိယာတန်ဆာပလာပစ္စည်းများကို ခေါ်ဆိုသည်။

**"အမြဲတမ်းလုပ်ငန်းများ"** ဆိုသည်မှာ ဤစာချုပ်ပါ **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းတွင် အကျုံးဝင်သော ပုံစံပြု၍ ဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုသည်။

**"တစ်ဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** ဆိုသည်မှာ ဤစာချုပ်ပါ အပိုဒ် - ၈ (၃) အရ **"လုပ်ငန်းလုပ်ကိုင်သူ"**ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေလုပ်ကိုင်ခွင့်ရသူ (သို့မဟုတ်) လုပ်ငန်းနှင့်သက်ဆိုင်သည့် ပစ္စည်းများ၏ စက်၊ ယာဉ်ယန္တရားများ ပေးသွင်းခွင့်ရသူများကို ဆိုလိုသည်။

(ဃ) **"စက်ရုံ၊ အလုပ်ရုံ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ **"လုပ်ငန်းလုပ်ကိုင်သူ"** မှ ဤ **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်း

လုပ်ငန်းများ ဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ ကိရိယာ (လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာ) များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) **"အလုပ်ခွင်နေရာ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းအပိုင်း၏ နေရာများ၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့် နေရာများ၊ ရုံးအဆောက်အအုံ၊ စက်ရုံ၊ အလုပ်ရုံ တည်ဆောက်ထားသည့် နေရာများ၊ ပစ္စည်းများ စုပုံထားသည့်နေရာများကို ခေါ်ဆိုသည်။

(စ) **"စာချုပ်"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ကို ဆိုလိုသည်။

(ဆ) **"လျှပ်စစ်ဓာတ်အား"** ဆိုသည်မှာ **"လျှပ်စစ်စီမံကိန်း"** မှ ထုတ်လုပ်၍ ထွက်ရှိသည့် လျှပ်စစ်ဓာတ်အားကို ဆိုလိုသည်။

(ဇ) **"စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးခြင်း"** ဆိုသည်မှာ စက်ရုံ၏ လျှပ်စစ်ဓာတ်အားပေး စက်များအနက် ပထမဆုံးစက်မှ လျှပ်စစ်ဓာတ်အား စီးပွားဖြစ် ထုတ်လုပ်ရောင်းချပေးခြင်းကို ဆိုလိုသည်။

**အာမခံချက်နှင့် ကိုယ်စားပြုခြင်း**

၂။ ဤစာချုပ်ဝင်တစ်ဦးတစ်ဖက်က အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တရားဥပဒေများအရ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင် ရပ်တည် ခွင့်ရှိသူဖြစ်ကြောင်းနှင့် ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ၊ လုပ်ပိုင်ခွင့်အာဏာ အပ်နှင်း ခြင်းခံရသူများဖြစ်ကြောင်း အာမခံပါသည်။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ခိုင်မာသော ဘဏ္ဍာရေး ရပ်တည်မှုရှိသူ ဖြစ်ကြောင်း အာမခံပါသည်။

**ဆောင်ရွက်ရမည့်လုပ်ငန်းအဆင့်ဆင့်**

၃။ ဤ **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းကို ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါ အတိုင်း ဖြစ်ပါသည် -

(က) စီမံကိန်းအတွက် စူးစမ်းလေ့လာခြင်း၊ ဒီဇိုင်းရေးဆွဲပုံစံထုတ်လုပ်ခြင်းနှင့် စီးပွားရေး တွက်ခြေ ကိုက်မှု လေ့လာသုံးသပ်ခြင်း၊

( ခ ) ရေလွှဲဥမင်လိုဏ်လုပ်ငန်း (Diversion Tunnel) ၊

( ဂ ) ရေယူအဆောက်အအုံ (Power Intake) တည်ဆောက်ခြင်းလုပ်ငန်း၊

(ဃ) ပင်မတမံ (Concrete Gravity Dam) တည်ဆောက်ခြင်းလုပ်ငန်း၊

( င ) ပင်မရေပိုလွှဲ (Spillway) တည်ဆောက်ခြင်းလုပ်ငန်း၊

( စ ) ဓာတ်အားပေးစက်ရုံ (Power House) တည်ဆောက်ခြင်းလုပ်ငန်း၊

(ဆ) စီမံကိန်းနှင့် ဆက်သွယ်သည့် လမ်းများဖောက်လုပ်ခြင်း၊

( ဇ ) စီမံကိန်းအတွက် ဓာတ်အားပို့လွှတ်ရေးလိုင်း (Transmission Line) တည်ဆောက်ခြင်း၊

( ဈ ) ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ထိန်းသိမ်းမောင်းနှင်ခြင်း၊

(ည) လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်း၊

( ဋ ) ဖိအားမြင့်သံမဏိပိုက်လိုင်း (Penstock) တည်ဆောက်ခြင်းလုပ်ငန်း။

**အစိုးရ၏ မြေအသုံးချရန် ခွင့်ပြုချက် (Concession Rights)**

၄။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** ကို B.O.T. စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန် ရှမ်းပြည်နယ်မြောက်ပိုင်း၊ မူဆယ်မြို့နယ်၊ မန်းဟန်ကျေးရွာအနီး၊ နမ့်ပေါ်ချောင်းပေါ်တွင် နောက်ဆက်တွဲ(၁) မြေပုံပါ နမ့်ပေါ်ချောင်းနှင့် ဆက်စပ်သော လိုအပ်သည့် စီမံကိန်းမြေဧရိယာနှင့် အရင်းအမြစ်များကို အကန့်အသတ်ဖြင့် အသုံးချနိုင်ရန် ခွင့်ပြုမိန့်ကို အစိုးရထံမှ ခွင့်ပြုချက်ရရှိစေရေး အတွက် **"လုပ်ငန်းခွင့်ပြုသူ"** က ဆောင်ရွက်ပေးရမည်။

**မြေအသုံးပြုမှု ပရီမီယံ (Land Used Premium)**

၅။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** ကို B.O.T. စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိသဖြင့် **"လုပ်ငန်းခွင့်ပြုသူ"** အား မြေအသုံးချမှုပရီမီယံကြေးအနေဖြင့် စုစုပေါင်းကျပ်သိန်း (၅၀၀) (ကျပ်သိန်း ငါးရာတိတိ) ကို လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန၊ ဘဏ်စာရင်းအမှတ်၊ MD-013200 သို့ အောက်ပါအတိုင်းပေးအပ်ရမည် -

(က) ဤပဋိညာဉ်စာချုပ် နှစ်ဖက်လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ်သိန်း (၂၅၀) (ကျပ်သိန်း နှစ်ရာ့ငါးဆယ်တိတိ) ကို ပေးအပ်ရန်၊

(ခ) **"လျှပ်စစ်စီမံကိန်း"** ၏ တည်ဆောက်ရေးကာလပြီးနောက် **"လျှပ်စစ်ဓာတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်နိုင်သည့် နေ့ရက်ကာလတွင် ကျပ်သိန်း(၂၅၀) (ကျပ်သိန်း နှစ်ရာ့ငါးဆယ် တိတိ) ကို ပေးအပ်ရန်။

**စံချိန်စံညွှန်းများ**

၆။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းကို အဆင့်ဆင့်ဆောင်ရွက်ရာတွင် **"လုပ်ငန်းခွင့်ပြုသူ"**မှ သတ်မှတ်ထားသည့် နည်းပညာဆိုင်ရာ စံညွှန်းများနှင့်ကိုက်ညီအောင် လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ပေးရမည်။ အချို့လုပ်ငန်းများဆောင်ရွက်ရာတွင် သတ်မှတ်ချက်များ အတိုင်း ဆောင်ရွက်ရန်မဖြစ်နိုင်ပါက လိုအပ်သလို နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ခွင့်ရှိသည်။

**"လုပ်ငန်းခွင့်ပြုသူ" ၏ တာဝန်များ**

၇။ **"လုပ်ငန်းခွင့်ပြုသူ"** ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"လုပ်ငန်းခွင့်ပြုသူ"**သည် ဤ ပဋိညာဉ်စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်နိုင်ရန် လိုအပ်သောခွင့်ပြုမိန့်ကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့မှ ရရှိရန် ပံ့ပိုးကူညီဆောင်ရွက်ပေးရမည်။

(ခ) **"လုပ်ငန်းခွင့်ပြုသူ"**သည် **"လျှပ်စစ်စီမံကိန်း"**အတွက် လိုအပ်သော သက်ဆိုင်ရာ ဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အတည်ပြုချက်၊ သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် စီမံကိန်းနှင့်ဆက်စပ်သည့် လိုအပ်သော အချက်အလက်များ၊ သတင်းနှင့်အစီရင်ခံစာများ၊ နည်းပညာရပ်ဆိုင်ရာ ကိစ္စရပ်များ၊ အတိုင်ပင်ခံ အင်ဂျင်နီယာများကို ကူညီဆောင်ရွက်ပေးရမည်။

(ဃ) **"လုပ်ငန်းခွင့်ပြုသူ"** သည် ဆိုခဲ့သည့် **"လျှပ်စစ်စီမံကိန်း"** အတွက် လိုအပ်မည့် မြေနေရာသုံးစွဲခွင့်ကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြေယာအသုံးပြုခွင့်ရရှိရန် သက်ဆိုင်ရာ ဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

( င ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များရရှိစေရန် ဥပဒေနှင့်အညီ ဆောင်ရွက်ပေးရမည်။

( စ ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** အား ဤစာချုပ်နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်မှုတွင် လိုအပ်သည့် ကြီးကြပ်စစ်ဆေးမှုများ ဆောင်ရွက်ရမည်။

(ဆ) **"လျှပ်စစ်စီမံကိန်း"** အတွက် **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ပြည်တွင်း/ပြည်ပချေးငွေ ချေးယူသုံးစွဲခြင်းကိစ္စကိုလည်းကောင်း၊ ပြည်ပမှ စက်ပစ္စည်း၊ ယာဥ်ယန္တရားများ ဝယ်ယူ တင်သွင်းရန်အတွက် တင်ဒါခေါ်ယူခြင်း၊ ဈေးနှုန်းညှိနှိုင်းစိစစ်ခြင်း၊ ပစ္စည်းတင်သွင်းခြင်း ကိစ္စရပ်များကို လည်းကောင်း၊ **"လုပ်ငန်းခွင့်ပြုသူ"**မှ လုပ်ထုံးလုပ်နည်းများနှင့်အညီ ကူညီဆောင်ရွက်ပေးရန်နှင့် လိုအပ်ပါက **"လုပ်ငန်းလုပ်ကိုင်သူ"** နှင့် အဆိုပါ ဆောင်ရွက်မည့် လုပ်ငန်းအစီအစဥ်များအတွက် သီးခြားသဘောတူညီချက်စာချုပ်များ ချုပ်ဆို၍ ဆောင်ရွက်ရမည်။

( ဇ ) **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လျှပ်စစ်စီမံကိန်း"** မှ ထွက်ရှိမည့် လျှပ်စစ်ဓာတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့်ရရှိရေးအတွက် သက်ဆိုင်ရာအဖွဲ့အစည်းများ နှင့် ညှိနှိုင်းစီစဥ်ဆောင်ရွက်ပေးရမည်။

( ဈ ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကိုပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် **"လုပ်ငန်းခွင့်ပြုသူ"**ထံ စာဖြင့်ရေးသား၍ အချိန်တိုးပေးရန် တောင်းဆိုမှုပြုနိုင်သည်။ **"လုပ်ငန်းခွင့်ပြုသူ"** သည် ယင်းတင်ပြချက် အထောက်အထားများအပေါ်အခြေပြု၍ အချိန်တိုးပေးရန် စဥ်းစားမည်။

**"လုပ်ငန်းလုပ်ကိုင်သူ" ၏ တာဝန်များ**

၈။ **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းအတိုင်းအတာပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ကြီးကြပ်သူအလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံပစ္စည်းများ၊ ကိရိယာတန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြား

လိုအပ်သော အရာဝတ္ထုများကိုဖြည့်ဆည်းခြင်း၊ ဆောင်ရွက်ခြင်းနှင့် စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်ရမည်။

( ခ ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ယင်း၏ ထိန်းချုပ်မှုအောက်ရှိ စီမံကိန်းစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ လုံခြုံမှု ၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ် ကင်းရှင်းစေမှုရှိစေရေးတို့အတွက် အပြည့်အဝတာဝန်ယူရမည်။

( ဂ ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ပြည်တွင်းမှ ဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှဝန်ထမ်းများ၊ အကြံပေးအင်ဂျင်နီယာများနှင့် အလုပ်သမားများကို လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

(ဃ) **"လုပ်ငန်းလုပ်ကိုင်သူ"**သည် ဝန်ထမ်းနှင့်အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ်ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

( င ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ပြည်ပမှအလုပ်သမားများ မြန်မာနိုင်ငံတွင်ရှိနေစဉ်အတွင်း ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

( စ ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** ကို ဤစာချုပ်အရ သတ်မှတ်ထားသည့် စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ရမည်။ အကယ်၍ ပုံစံပြောင်းလဲဆောင်ရွက်ရန် လိုအပ်လာပါက အဆိုပြုချက်အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်း မရှိစေရ။

(ဆ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာအတွင်း နှင့် အပြင်) အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင်အခြေအနေ ယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှုမရှိစေရန်တို့အတွက် လိုအပ်သောအစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

( ဇ ) **"လျှပ်စစ်စီမံကိန်း"** လုပ်ငန်းဆောင်ရွက်ရာတွင် **"လုပ်ငန်းလုပ်ကိုင်သူ"** သည် သစ်တောဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

( ဈ ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လုပ်ငန်းခွင့်ပြုသူ"** ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရဘဲ လုပ်ငန်းကိုလွှဲပြောင်းခြင်း၊ ပေါင်နှံခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်းမပြုရ။

(ည) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လုပ်ငန်းခွင့်ပြုသူ"** မှ ပံ့ပိုးကူညီသည့် **စီမံကိန်းနှင့်** ဆက်စပ်သော အချက်အလက်များ၊ သတင်းများနှင့် အစီရင်ခံစာများကို အများနှင့် မသက်ဆိုင်သောကိစ္စအဖြစ် လျှို့ဝှက်ကိစ္စတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားရှိရမည်။

( ဋ ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့်ကာလအတွင်း **"လျှပ်စစ်စီမံကိန်း"** ကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေးလုပ်ငန်းများကို ဆောင်ရွက်ရမည်။

( ဌ ) **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ **"လျှပ်စစ်စီမံကိန်း"** မှ ထွက်ရှိသည့် လျှပ်စစ်ဓာတ်အားကို သတ်မှတ်ချက်နှင့်အညီ ဖြန့်ဖြူးရောင်းချခွင့်ရှိသည်။

( ဍ ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလွှဲပြောင်းလုပ်ကိုင်ခွင့်မပြုရ၊ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့်ခံလွှဲပြောင်းလုပ်ကိုင်ခွင့်ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် **"လုပ်ငန်းလုပ်ကိုင်သူ"** က တာဝန်ယူရမည်။

( ဎ ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် **"လျှပ်စစ်စီမံကိန်း"** အတွက် ပြည်တွင်း/ပြည်ပ စီမံကိန်းချေးငွေများချေးယူခြင်းတွင် သက်ဆိုင်ရာဌာနအဖွဲ့အစည်းများနှင့် သီးခြားချုပ်ဆိုသည့် သဘောတူညီချက်စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက်များ၊ ချေးငွေအတိုးနှင့် ချေးငွေပေးဆပ်ရေးဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် တိတိကျကျ လိုက်နာဆောင်ရွက်ရမည်။

(ဏ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် သက်ဆိုင်ရာဥပဒေနှင့်အညီ အခွန်အခများ ပေးဆောင်ရမည်။

**နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလ**

၉။ နေ့ရက်၊ အချိန်နှင့် တည်ဆောက်ရေးကာလမှာ အောက်ပါအတိုင်း သတ်မှတ်ပါသည် -

(က) **"လုပ်ငန်းစတင်သည့်နေ့"** မှာ ဤပဋိညာဉ်စာချုပ်ကို နှစ်ဖက်သဘောတူ လက်မှတ်ရေးထိုးသည့်နေ့ ဖြစ်ပါသည်။

( ခ ) **"တည်ဆောက်ရေးကာလ"** ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၃) နှစ်အထိ ဖြစ်သည်။

(ဂ) **“နေ့ရက်”** ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ **“နှစ်”** ဆိုသည်မှာ (၃၆၅) ရက် ဖြစ်သည်။

(ဃ) **“အကျိုးသက်ရောက်သည့်နေ့”** မှာ **“လုပ်ငန်းခွင့်ပြုသူ”** ၏ တရားဝင်အကြောင်းကြားချက်အရ ဤစာချုပ်ပါ စည်းကမ်း၊ သတ်မှတ်ချက်များအတိုင်း ဖော်ပြပါရှိသည့်နေ့သည် အကျိုးသက်ရောက်သည့်နေ့ ဖြစ်သည်။

(င) အထက်အပိုဒ်-၉(ခ)ပါ တည်ဆောက်ရေးကာလအတွင်း မမျှော်မှန်းခဲ့သည့် အကြောင်းတစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်းမပြီးပြတ်ပါက တည်ဆောက်ရေးကာလတိုးမြှင့်မှုကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့်ဆောင်ရွက်ရမည်။

**လျှပ်စစ်ဓာတ်အားဖြန့်ဖြူးခြင်း**

၁၀။ ဤစာချုပ်၏ **“လျှပ်စစ်စီမံကိန်း”** မှ **“လျှပ်စစ်ဓာတ်အား”** ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတော်/လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်ပေးသည့်နှုန်းထားနှင့် သတ်မှတ်ချက်များနှင့်အညီ ဖြန့်ဖြူးရောင်းချရမည်ဖြစ်သည်။

**သယံဇာတပစ္စည်းတွေ့ရှိခြင်း**

၁၁။ **“လုပ်ငန်းလုပ်ကိုင်သူ”** သည် သဘောတူစာချုပ်ပါ လုပ်ငန်းဆောင်ရွက်နေစဉ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းထားသော မြေအတွင်းမှ ဓာတ်သတ္တုအရင်းအမြစ်များ၊ သဘာဝတွင်းထွက် သယံဇာတ ပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများနှင့် ရွှေ၊ ငွေ၊ ကျောက်မျက်ရတနာများ တွေ့ရှိပါက **“လုပ်ငန်းခွင့်ပြုသူ”** ထံ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါ သယံဇာတပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများ ဖြစ်စေရမည်။ **“လုပ်ငန်းခွင့်ပြုသူ”** သည် အဆိုပါ သယံဇာတပစ္စည်းများကို လွတ်လပ်စွာ တူးဖော်ရယူခွင့်ရှိစေရမည်။

**လုပ်ငန်းတန်ဖိုး**

၁၂။ ဤစာချုပ်ချုပ်ဆိုသည့် **“လျှပ်စစ်စီမံကိန်း”** ၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်တန်ဖိုး စုစုပေါင်းမှာ ကျပ်သန်းပေါင်း **(၃၂,၅၁၄.၄၂၁)** နှင့် အမေရိကန်ဒေါ်လာသန်းပေါင်း **(၁၃.၉၂၄)** ဖြစ်ပါသည်။

**လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု**

၁၃။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရန်ဖြစ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လုပ်ငန်းအစီအစဉ်အသေးစိတ်ကို လုပ်ငန်းစတင်သည့်နေ့မှ (၆) လအတွင်း **"လုပ်ငန်းခွင့်ပြုသူ"** ထံ တင်သွင်းရမည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် လစဉ်တိုးတက်မှုအစီရင်ခံစာကို မိတ္တူ (၁၂)စုံ ပြုစုပြီး **"လုပ်ငန်းခွင့်ပြုသူ"** ထံ တင်သွင်းရမည်။

**စစ်ဆေးခြင်းနှင့် ကန့်ကွက်ခြင်း**

၁၄။ **"လျှပ်စစ်စီမံကိန်း"** ၏ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သောအလုပ်သမား၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်းဆောင်ရွက်မှု အစရှိသည်တို့ကို **"လုပ်ငန်းခွင့်ပြုသူ"** က လိုအပ်သလို ထိရောက်စွာ စစ်ဆေးနိုင်သည်။

၁၅။ **"လုပ်ငန်းခွင့်ပြုသူ"** ၏ စစ်ဆေးတွေ့ရှိချက်များအရ ချို့ယွင်းမှု (သို့မဟုတ်) စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက **"လုပ်ငန်းခွင့်ပြုသူ"** က ကန့်ကွက်နိုင်သည့်အပြင် **"လုပ်ငန်းလုပ်ကိုင်သူ"** ထံ ချက်ချင်း အကြောင်းကြားရမည်။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ချို့ယွင်းချက်ကို တစ် ( ၁ ) လအတွင်း ကောင်းစွာ ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့် လုပ်ငန်း/ပစ္စည်းများကို သတ်မှတ်စံနှုန်းနှင့်အညီ ဖြစ်စေရန် တာဝန်ယူရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၁၆။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်းဆောင်ရွက်ရမည် -

(က) **"မလွန်ဆန်နိုင်သောဖြစ်ရပ်"** ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရတားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှုပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်းမရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူအကြောင်း တစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များကို ဆောင်ရွက်ရန် (သို့မဟုတ်) အခြားတစ်ဖက်ဖက်၏

ဆောင်ရွက်မှုကို လက်ခံရန် လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ၊ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့ လုပ်ဆောင်နိုင်စွမ်းမရှိသည့်ဖက်မှ မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသောဖြစ်ရပ်ပေါ်ပေါက်သည့်နေ့မှ (၁၄) ရက်အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့ အကြောင်းကြားစာပေးပို့ခြင်းကို အခြားတစ်ဖက်က အတည်ပြုလက်ခံမှသာ မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတစ်ဖက်၏ တာဝန်များကို အခြားတစ်ဦးတစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ်ဖြစ်ပေါ် နေသည့်ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ဆိုင်းငံ့ထားနိုင်သည်။ ထို့ပြင် ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်ရသည့်အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

**လုပ်ငန်းလုပ်ကိုင်သူ၏ ပျက်ကွက်မှု**

၁၇။ **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ ပျက်ကွက်မှုနှင့် ပတ်သက်၍ လိုက်နာရမည့်အချက်များမှာ -

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ယင်း၏ တာဝန်ဝတ္တရားများ (သို့မဟုတ်) စာချုပ်ပါ လုပ်ငန်းကိုပျက်ကွက်ခြင်း (သို့မဟုတ်) ဆောင်ရွက်ခြင်းမပြုလျှင်၊ **"လုပ်ငန်းခွင့်ပြုသူ"** မှ အဆိုပါပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သောအချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာပေးပို့နိုင်သည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် စာချုပ်တွင်သတ်မှတ်ထားသောကာလအတွင်း စာချုပ်ပါ လုပ်ငန်းကို ပြီးစီးအောင်ဆောင်ရွက်နိုင်ခြင်းမရှိပါက ကျန်ရှိသောလုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာ စိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းတန်ဖိုး၏ (၀.၅)%အား ရက်သတ္တတစ်ပတ်နောက်ကျတိုင်း **"လုပ်ငန်းခွင့်ပြုသူ"**ထံပေးဆောင်ရန်နှင့် ထိုသို့ပေးဆောင်မှုသည် ကျန်ရှိသော လုပ်ငန်းများ၏ ကျွမ်းကျင်မှုဆိုင်ရာစိစစ်ပြီးဖြစ်သော ခန့်မှန်းခြေစာရင်းများ၏ စုစုပေါင်း တန်ဖိုး၏ (၅)%ကို မကျော်လွန်စေရပါ။ ထို့အပြင် **"လုပ်ငန်းခွင့်ပြုသူ"** သည် **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ်

စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန်မသင့်ဟု ယူဆပါက စာချုပ်ပါလုပ်ငန်းအား **"လုပ်ငန်းခွင့်ပြုသူ"** မှ သိမ်းယူခွင့်ရှိသည်။

(ဂ) **"လုပ်ငန်းလုပ်ကိုင်သူ"** သည် ဤစာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်နိုင်ခြင်း မရှိသဖြင့် ဤစာချုပ်အရ **"လုပ်ငန်းခွင့်ပြုသူ"**မှ သိမ်းယူ ပြီးနောက် ၊ တတိယပုဂ္ဂိုလ်သို့ လွှဲပြောင်းပေးအပ်ပါက **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ နဂိုမူလ ကုန်ကျထားသော ကုန်ကျစရိတ်များကို ကြောင်းကျိုးညီမျှသည့် ပမာဏအား တတိယပုဂ္ဂိုလ်ထံမှ လျော်ကြေးတောင်းခံနိုင်မှုရှိသည်။

**ပြောင်းလဲခြင်းများ**

၁၈။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည် -

(က) **"လုပ်ငန်းလုပ်ကိုင်သူ"** အနေဖြင့် လုပ်ငန်းကိုပိုမိုကောင်းမွန်အောင် ပုံစံပြုပြောင်းလဲဆောင်ရွက်ခြင်းလုပ်ငန်းကို **"လုပ်ငန်းခွင့်ပြုသူ"** ထံမှ အတည်ပြုခြင်း၊ သို့မဟုတ် ဆောင်ရွက်ရန် တစ်စုံတစ်ရာ ညွှန်ကြားချက်များမရရှိမီ အချိန်အထိ ဆောင်ရွက်ခြင်း မပြုရ။ **"လုပ်ငန်းခွင့်ပြုသူ"** မှ လုပ်ငန်းပြောင်းလဲဆောင်ရွက်ရန် အဆိုပြုလွှာ တင်သွင်းရန် တောင်းဆိုလာပါက **"လုပ်ငန်းလုပ်ကိုင်သူ"** အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည် -

(၁) ပြောင်းလဲအဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် ပုံစံပြုလွှာအသစ်၊ လုပ်ငန်းအစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ အဆိုပြုလွှာ ရေးဆွဲတင်ပြရမည်။

(၃) **"လုပ်ငန်းခွင့်ပြုသူ"** မှ အဆိုပြုလွှာလက်ခံရရှိပြီးနောက် (၁၄) ရက်အတွင်း အတည်ပြုအမိန့်များ (သို့မဟုတ်) ကန့်ကွက်လွှာများ (သို့မဟုတ်) ဆောင်ရွက်ရမည့် အမိန့်များကို ထုတ်ပြန်ပေးရမည်။

(၄) **"လုပ်ငန်းခွင့်ပြုသူ"** သည် မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်းပြောင်းလဲခြင်းကိုမဆို **"လုပ်ငန်းလုပ်ကိုင်သူ"** အတွက် အပိုကုန်ကျစရိတ်ငွေများမရှိစေရန် အထူးသတိထားဆောင်ရွက်ရမည်။ မည်သည့်လုပ်ငန်းပြောင်းလဲခြင်းမှ **"လုပ်ငန်းလုပ်ကိုင်သူ"** ၏ အတည်ပြုချက်မရယူဘဲ ဆောင်ရွက်စေခြင်းမပြုရ။

(၅) **“လုပ်ငန်းခွင့်ပြုသူ”**သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး (သို့မဟုတ်) ဆောင်ရွက်ရန် ညွှန်ကြားပြီးသည့်အတိုင်း စာချုပ်ပါသတ်မှတ်ချက်ကာလအား ပြန်လည် ပြင်ဆင်သတ်မှတ်ရန် ဆုံးဖြတ်ချက် (သို့မဟုတ်) သဘောတူညီချက် ရှိအောင် ဆက်လက်ဆောင်ရွက်ပေးရမည်။

**ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း**

၁၉။ ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည် -

(က) စာချုပ်ဝင်တစ်ဖက်ဖက်မှ (၆)လကြိုတင်၍ နို့တစ်စာပေးပို့ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် ရပ်စဲခြင်း၊

(ခ) စီမံကိန်းကုမ္ပဏီတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ဂ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဖောက်ဖျက်ခြင်း၊

(ဃ) မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ရပ် (Force Majeure) (၁၂) လ ဆက်တိုက်ဖြစ်ပေါ်လာခြင်း၊

(င) စီမံကိန်းကုမ္ပဏီ၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

၂၀။ ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက် အတည်ဖြစ်စေရမည်။

**ပြင်ဆင်ခြင်း**

၂၁။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ သဘောတူညီချက် ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထို့သို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

**အနုညာတစီရင်ဆုံးဖြတ်ခြင်း**

၂၂။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာ ငြိမ်းချမ်းသောနည်းလမ်းဖြင့် ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို ၂၀၁၆ ခုနှစ်၊ အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေနှင့်အညီ ဖြေရှင်းဆောင်ရွက်ရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုကုန်ကျစရိတ်များအား အမှုရှုံးသူမှ ကျခံရမည်ဖြစ်ပါသည်။

**စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလ**

၂၃။ စာချုပ်အကျိုးသက်ရောက်သည့်နေ့နှင့် သက်တမ်းကာလမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) ဤပဋိညာဉ်စာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီး စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင်အတည်ပြု လက်မှတ်ရေးထိုးသည့်နေ့မှ စ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

(ခ) ပဋိညာဉ်စာချုပ် သက်တမ်းကာလမှာ ဤပဋိညာဉ်စာချုပ်အား နှစ်ဖက်လက်မှတ်ရေးထိုးပြီးနောက် **"လျှပ်စစ်စီမံကိန်း"**၏ ပထမဆုံး ဓာတ်အားပေးစက်တစ်လုံးမှ **"လျှပ်စစ်ဓာတ်အား"** စီးပွားဖြစ် စတင်ထုတ်လုပ်ဖြန့်ဖြူးနိုင်သည့် နေ့ရက်မှစတင်၍ နောက်ထပ်နှစ်ပေါင်း(၅၀)အထိ ဖြစ်သည်။

(ဂ) ပဋိညာဉ်စာချုပ်ကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ် သက်တမ်းမကုန်ဆုံးမီ ၆ လ (ခြောက်လ)ကြိုတင်၍ စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်းချက်များနှင့်အညီ တစ်ဆက်တည်း သက်တမ်းတိုးခွင့်(၁၀)နှစ် နှစ်ကြိမ်၊ ပဋိညာဉ် စာချုပ် သက်တမ်း တိုးမြှင့်နိုင်သည်။

(ဃ) **"လုပ်ငန်းခွင့်ပြုသူ"** မှ ခွင့်ပြုထားသော **"လျှပ်စစ်စီမံကိန်း"** ၏ စာချုပ်ပါ လုပ်ငန်းကာလ ပြည့်ပြီးနောက်၊ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် အကျိုးအမြတ်မရရှိခဲ့လျှင်သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင်သော်လည်းကောင်း၊ သက်တမ်းတိုးမြှင့် လုပ်ငန်းဆောင်ရွက်ခွင့် ရရှိရေးအတွက် **"လုပ်ငန်းခွင့်ပြုသူ"**ထံ တင်ပြလျှောက်ထားရမည်။

**ခွင့်ပြုလွှဲအပ်ခြင်း**

၂၄။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက စာဖြင့်သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်းပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့်ရှိသည်။

**အာမခံထားရှိခြင်း**

၂၅။ **"လုပ်ငန်းလုပ်ကိုင်သူ"** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံများ ထားရှိဆောင်ရွက်ရမည်။

**အထွေထွေကိစ္စရပ်များ**

၂၆။ (က) **တရားမဝင်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှုမရှိကြောင်း၊ မည်သို့ပင် ပေါ်ပေါက်စေကာမူ ဤစာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝ အကျိုးသက်ရောက်မှုရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်း။** ။ ဤစာချုပ်ပါ ပြဋ္ဌာန်းချက်တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကို ခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) စာချုပ်၏အခြား ပြဋ္ဌာန်းချက်တစ်စုံ တစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာ မရောက်စေရ။ ဤစာချုပ်တွင် ဖော်ပြပါရှိသော အခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင်ပါဝင်လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာ မရောက်စေရ။ ထို့အပြင် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့် တစ်ခုတည်းကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း၊ ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကိုရယူရန် ဟန့်တားခြင်း မဖြစ်စေရ။

(ဂ) **စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း ။** ။ စာချုပ်ပါစီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် ကိစ္စရပ်ဖြစ်ပေါ်လာပါက စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက်စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါ စည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

(ဃ) **မြေနှင့် ပစ္စည်းများပြန်လည်လွှဲပြောင်းပေးခြင်း။** ။ စာချုပ်ရပ်စဲသည့်အခါ(သို့မဟုတ်) စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ (၆)လတာကာလအတွင်း စာချုပ်ပါမြေနှင့် **"လျှပ်စစ်စီမံကိန်း"** ၌ ရင်းနှီးမြှုပ်နှံထားသော ပစ္စည်းများ၊ တပ်ဆင်ထားသော စက်ကိရိယာ၊ အဆောက်အအုံများကို **"လုပ်ငန်းလုပ်ကိုင်သူ"** က ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ **"လုပ်ငန်းခွင့်ပြုသူ"** ထံ လွှဲပြောင်းပေးအပ်ရမည်။

(င) **မြေနှင့်အဆောက်အဦသို့ ပြန်လည်ဝင်ရောက်ခွင့် ။** ။ လုပ်ငန်းလုပ်ကိုင်သူသည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် လုပ်ငန်းခွင့်ပြုသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် လုပ်ငန်းလုပ်ကိုင်သူသို့ အကြောင်းကြားစာပေးပို့ပြီးနောက်

အကျိုးအကြောင်းဆီလျော်သည့် ကာလအတွင်း လိုက်နာမှုမရှိပါက လုပ်ငန်းခွင့်ပြုသူသည် စီမံကိန်းနှင့်စပ်လျဉ်းသည့် စာချုပ်ပါ မြေနှင့်အဆောက်အဦ၊ စက်ကိရိယာများကို ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် လုပ်ငန်းခွင့်ပြုသူက လုပ်ငန်းလုပ်ကိုင်သူထံမှ ရရန်ရှိသော ငွေရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်း မရှိစေရ။

( ဇ ) **လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေး။** ။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရ၏ လွှဲပြောင်း၍မရနိုင်သော နိုင်ငံတော်၏ မြေပေါ်မြေအောက်၊ ရေပေါ် ရေအောက် သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့်နှင့် မူလဘူတအခွင့်အရေး ကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနုညာတဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက် အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း (သို့မဟုတ်) ကန့်သတ်ခြင်း မပြုနိုင်။

(ဈ) **တံဆိပ်ခေါင်းခွန်ထမ်းဆောင်ခြင်း။** ။ မြေကိုငှားရမ်းခြင်းဖြစ်ပါက တံဆိပ်ခေါင်း အက်ဥပဒေ ပုဒ်မ(၉)အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် (သို့မဟုတ်)သက်သာခွင့်မရရှိသေးလျှင် စာချုပ်ပေါ်တွင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို **"လုပ်ငန်းလုပ်ကိုင်သူ"** က ထမ်းဆောင်ရမည် ဖြစ်ပါသည်။

( ဉ ) **အကြောင်းကြားစာများ** ။ ။ ဤစာချုပ်တွင် အခြားနည်း သတ်မှတ်ဖော်ပြ ထားချက်များမှတပါး ဤစာချုပ်အရ လိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးသားပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်သော်လည်းကောင်း၊ စာတိုက်မှ မှတ်ပုံတင်၍ သော်လည်းကောင်း၊ ဖက် (စ်) ဖြင့် သော်လည်းကောင်း ပေးပို့ရမည်။ ဖော်ပြပါ အကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှု (ဤမှနောင်တွင် **"အကြောင်းကြားစာ"** ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်က လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည် -

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာပေးပို့ပြီးဖြစ်ပါက ဖက်(စ်)နံပါတ်၊ စာမျက်နှာ အရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း၊ အတည်ပြုဖော်ပြထားသည့် သတင်း ပေးပို့ချက်မှတ်တမ်းကို ပေးပို့သူကလက်ခံရရှိလျှင် အဆိုပါအကြောင်းကြားစာကို တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(၂) အကယ်၍ အကြောင်းကြားစာကို လက်ခံမည့်သူ၏ လိပ်စာတပ်၍ တံဆိပ်ခေါင်း ကပ်ပြီး စာတိုက်မှပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြ နိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး) ရက်မြောက်နေ့တွင် စာအိတ် ပေါ်တွင် ရေးသားထားသည့် လိပ်စာရှင်ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

(ဈ) စာချုပ်ပါနောက်ဆက်တွဲသည် စာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

**ဆက်သွယ်ရန် လိပ်စာများ**

၂၇။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသား ဆက်သွယ်ရန်လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည်-

**လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန**

**ရုံးအမှတ် (၂၇)၊ နေပြည်တော်၊ ဖက် (စ်) အမှတ် - ၀၆၇ - ၄၁၁၀၆၇**

**နှင့်**

**ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်**

**အမှတ်၊ (ကလ၊ ၁၅)၊ ပြည်ထောင်စုလမ်းမ၊ ကောင်းမှူးလွယ်ရပ်၊ မူဆယ်မြို့**

**နားလည်မှုစာချွန်လွှာ ပယ်ဖျက်ခြင်း**

၂၈။ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ (၇)ရက်နေ့တွင် နမ့်ပေါ် ရေအားလျှပ်စစ်စီမံကိန်းအတွက် ရှမ်းပြည်နယ်အစိုးရအဖွဲ့နှင့် မြန်မာနိုင်ငံသားပိုင် ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်တို့ လက်မှတ်ရေးထိုးလဲလှယ်ခဲ့သည့် နားလည်မှုစာချွန်လွှာကို ဤပဋိညာဉ်စာချုပ် အကျိုးသက်ရောက်သည့် နေ့မှစ၍ အစားထိုးပယ်ဖျက်ကြောင်း နှစ်ဦးနှစ်ဖက် သဘောတူညီကြသည်။

**စာချုပ်လက်မှတ်ရေးထိုးခြင်း**

၂၉။ ဤပဋိညာဉ်စာချုပ်ဝင်များသည် သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင် သူများသည် အထက်ဖော်ပြပါ ၂၀၁၆ ခုနှစ်၊ မတ်လ၊ (၁၆) ရက်နေ့တွင် အောက်ပါ အသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည် -

လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန
(ကိုယ်စား)

(မိမိခိုင်)
ညွှန်ကြားရေးမှူးချုပ်

ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်
(ကိုယ်စား)

(စိုင်းအုန်းမြင့်)
အုပ်ချုပ်မှုဒါရိုက်တာ

အသိသက်သေများ

အမည်၊ (ဟိန်းထက်)
ရာထူး ၊ဒုတိယညွှန်ကြားရေးမှူးချုပ်
ဌာန ၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန

အမည်၊ (စိုင်းအောင်ကြည်)
ရာထူး ၊ဒါရိုက်တာ(ဘဏ္ဍာရေး)
ဌာန ၊ ဂရိတ်ဟော်ခမ်း အများပိုင်
ကုမ္ပဏီလီမိတက်

# ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်

# နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်း

# စီမံကိန်းတည်နေရာနှင့် ပတ်ဝန်းကျင်အခြေပြမြေပုံ




Date : 2015, Jun 5rd




## Coordinates of the project's main control points

| Control point | X(m) | Y(m) | Remark |
|---|---|---|---|
| A | 2648364.641 | 389375.564 | Hilltop at the left abutment |
| B | 2648790.809 | 389520.066 | Hilltop at the right abutment |
| C | 2648445.139 | 389402.859 | Dam crest at the left abutment |
| D | 2648668.167 | 389478.482 | Dam crest at the right abutment |
| E | 2648588.277 | 389399.653 | Center of 1# device |
| F | 2648578.333 | 389396.281 | Center of 2# device |
| G | 2648568.389 | 389392.909 | Center of 3# device |

## Engineering Characteristics

| Ser. No. | Item | Unit | Qty. | Remark |
|---|---|---|---|---|
| 三 | Engineering quantity | | | |
| | Earth excavation | $m^3$ | 409900 | |
| | Rock excavation | $m^3$ | 99500 | |
| | Backfill of earth and rocks | $m^3$ | 126900 | |
| | Concrete and reinforced concrete | $m^3$ | 179400 | |
| | Rebar | t | 1723 | |
| | Curtain grouting | m | 2153 | |
| | Consolidation grouting | m | 6205 | |
| | M7.5 Cement laid stone masonry | $m^3$ | 208 | |
| 四 | Construction | | | |
| | Construction diversion | | Tunnel diversion | |
| | Total construction time | Month | 36 | |
| 五 | Economic indicators | | | |
| | Total project investment | $10^4$ yuan | 5041.82 | |
| | Average annual energy output | $10^8$ KWh | 0.8331 | |
| | Reservoir unit capacity investment | yuan/$m^3$ | 1.05 | Total reservoir capacity |
| | Reservoir unit kilowatt investment | yuan/kW | 2373 | Static |
| | Unit electrical degree investment | yuan/kw.h | 0.57 | Static |
| | Economic internal rate of return | % | 11.3 | |
| | Financial internal rate of return | % | 7.26 | |
| | Grid purchase price | yuan/kw.h | 0.061 | |
| | Pay-back period of loan | year | 25 | |

Notes:

1.Units in the drawing: elevation is in meter; stake mark is in km+m; dimension is in meter.

2. **Scale**: 0 10 20 30 40 50m

## Engineering Characteristics

| Ser. No. | Item | Unit | Qty. | Remark |
|---|---|---|---|---|
| 一 | Reservoir | | | |
| | Check flood level | m | 805.54 | P=0.2% |
| | Design flood level | m | 805.00 | P=2% |
| | Normal pool level | m | 805.00 | Storage capacity 4802* $10^4 m^3$ |
| | Dead water level | m | 795.00 | |
| | Silt elevation | m | 766.92 | |
| | Total storage capacity | $10^4 m^3$ | 5012 | |
| | Dead storage capacity | $10^4 m^3$ | 2055 | |
| | Design water discharge | $m^3/s$ | 969 | P=2% |
| | Corresponding level of tail water | m | 767.15 | |
| | Check water discharge | $m^3/s$ | 1374 | P=0.2% |
| | Corresponding level of tail water | m | 768.44 | |

| Ser. No. | Item | Unit | Qty. | Remark |
|---|---|---|---|---|
| 二 | Main structure | | | |
| | 1.Dam | | | |
| | Dam type | | Concrete gravity dam | |
| | Foundation feature | | Metamorphic silt | |
| | Crest elevation | m | 808.00 | |
| | Max. height of dam | m | 54.00 | |
| | Crest length | m | 211.00 | |
| | Type of downflow weir | | WES | |
| | Dimension of overflow hole | | 2×10×10 | n×B×H |
| | Elevation of over-fall crown | m | 795.00 | |
| | Form of energy dissipation | | Energy dissipation by underflow | |
| | Water discharge for energy dissipationl and erosion control | $m^3/s$ | 865 | P=3.33% |

| Ser. No. | Item | Unit | Qty. | Remark |
|---|---|---|---|---|
| 二 | Main structure | | | |
| | 2.Powerhouse | | | |
| | Type | | At dam toe | |
| | Foundation feature | | Metamorphic silt | |
| | Installed capacity | MW | 20 | 3 pcs*6.67MW |
| | Rated head | m | 38.75 | |
| | Rated flow | $m^3/s$ | 19.79 | Single unit |
| | Setting elevation of machine set | m | 760.70 | |
| | Elevation of water diversion | m | 785.00 | |
| | Diameter of water diversion pipe | m | 2.30 | Single unit single pipe |
| | Crane | t | 50/10t | |
| | Main valve | | Deadweight hydraulic operation through-flow valve | |

Hunan Hydro & Power Design Institute

| | | | | | | |
|---|---|---|---|---|---|---|
| Approved by | | | Nam Paw Hydropower Station | | Project feasibility | Design |
| Verified by | | | | | Hydraulic Structure | Part |
| Reviewed by | | | Design Scheme for Powerhouse at Dam Toe of Concrete Gravity Dam (Recommended Scheme)<br>General Project Layout | | | |
| Checked by | | | | | | |
| Designed by | | | | | | |
| Drawing | | | | | | |
| Tracing | CAD | | Scale | See the drawing | Date | 2015.03 |
| Design certificate No. | Certificate of engineering design A143004434 | | Drawing No. | HND/NPHPS-04-01-01 | | |



Axis of dam
Z0+000.000
7250
▽809.20
▽808.00
▽807.00
▽805.75
▽800.00
▽805.54 (Check flood level P=0.2%)
▽805.00 (Normal pool level)
(Design flood level P=2%)
▽795.00 (Dead water level)
3000
Φ150 Non-fine concrete pipe
@2.5m
1:0.75
▽780.00
C20 Concrete dam body
1:0.2
▽766.92 (Silt elevation)
(Using 50 years)
Upper dam axis
Zk4
759.30
▽762.00
Gallery in dam
3.0*3.5m
▽759.00
▽759.00
▽768.00 (Revetment at lower reaches)
▽767.15 (Design flood level P=2%)
▽768.44 (Check flood level P=0.2%)
▽766.79 (Tail water level of energy dissipation and erosion control P=3.33%)
Q4al Alluvial deposit: Sand Sandy gravel
Q4al
1:1
1:1
▽754.00
Impervious curtain
@2.0m
1:0.2
Φ110 Weep hole
@2.5m
Єyn 2-1
Gray black metamorphic siltstone
Gray black metamorphic siltstone
Gray black metamorphic siltstone
Єyn 2-1
Єyn 2-1
13400
37500
50900
F3: N35°~40°W,NE∠75°~85°
b=0.1~0.3m
N40°~50°E,SE∠45°~60°
N20°~40°W,SW∠30°~45°
(m)
815
810
805
800
795
790
785
780
775
770
765
760
755
750
745
740
735
15.72
13.76
11.68
9.14
8.44
6.50
9.31
82 80 83 70 72 62 74 50 50 78 80 80 50 78 93 82 81 82 80 76 80 70 83 70 80 75 62
9.39
7.8
10.49
10.00
67 75 77 65 60 62 70 54 58 54 58 76 81 82
Standard Profile of Non-overflow Dam
Axis of dam
Z0+000.000
7250
3000
4250
250
2750
3000
1000
250
Cable duct at dam top
600*600
▽809.20
i=1%
808.00
i=1%
▽808.30
9~12cm thick pavement
C30W6F200
▽807.00
▽805.75
1:1
1250
Φ50 Drain pipe
@2.5m i=5%
C20 Concrete dam body
3000
3000
6000
Structure drawing of dam crest
0 1m 2m 3m
Notes:
1. Units in the drawing: elevation is in meter;
stake mark is in km+m; dimension is in millimeter.
2. Scale: 0 2m 6m 8m 10m
Hunan Hydro & Power Design Institute
Approved by
Verified by
Reviewed by
Checked by
Designed by
Drawing
Tracing
CAD
Nam Paw Hydropower Station
Project feasibility Design
Hydraulic Structure Part
Design Scheme for Powerhouse at Dam Toe of
Concrete Gravity Dam (Recommended Scheme)
Standard Profile of Non-overflow Dam
Scale
See the drawing
Date
2015.03
Design certificate No.
Certificate of engineering design A143004434
Drawing No.
HND/NPHPS-04-01-02




## Coordinates of control points at overflow surface

| Ser. No. | Coordinate value (m) X | Y |
|---|---|---|
| A | -7.936 | 2.000 |
| B | -5.936 | 0.000 |
| O | 0.000 | 0.000 |
| C | 15.375 | 11.081 |
| D | 15.690 | 11.502 |
| E | 31.566 | 24.751 |
| F | 42.064 | 30.000 |

Notes:
1. Units in the drawing: elevation is in meter; stake mark is in km+m; dimension is in millimeter.
2. Scale: 0 2m 4m 6m 8m 10m

| Hunan Hydro & Power Design Institute | | | |
|---|---|---|---|
| Approved by | | Nam Paw Hydropower Station | Project feasibility Design; Hydraulic Structure Part |
| Verified by | | | |
| Reviewed by | | Design Scheme for Powerhouse at Dam Toe of Concrete Gravity Dam (Recommended Scheme) | |
| Checked by | | | |
| Designed by | | Standard Profile of Overflow Dam | |
| Drawing | | | |
| Tracing | CAD | Scale: See the drawing | Date: 2015.03 |
| Design certificate No. | Certificate of engineering design A143004434 | Drawing No. | HND/NPHPS-04-01-03 |


Axis of dam
Z0+000.000
818.00
Bulkhead gate
Trash rack
1500
6500
13750
7250
809.00
808.00
805.75
805.54 (Check flood level P=0.2%)
805.00 (Normal pool level)
(Design flood level P=2%)
800.00
795.00 (Dead water level)
785.00
783.00
53°
R10000
1:0.75
2300 2000
1:1
1500
777.083
Φ150 Non-fine concrete pipe
@2.5m
1:0.2
C15 Concrete dam body
766.92 (Silt elevation)
(Using 50 years)
Upper dam axis
Zk4
759.30
762.00
Gallery in dam
3.0*3.5m
759.00
757.00
754.00
Alluvial deposit: Sand Sandy gravel
Impervious curtain
@2.0m
Φ110 Weep hole
@2.5m
Gray black metamorphic siltstone
F3: N35°~40°W,NE∠75°~85°
b=0.1~0.3m
N20°~40°W,SW∠30°~45°
Longitudinal axis of unit
Z0+022.500
Z0+046.500
Z0+057.500
3000
12000
16000
4000
782.83
780.50
777.20
774.00
L=13m 50/10t
767.20 (Rail top elevation)
Tail water bulkhead gate
7500
5500
5300
High/low voltage switchhouse
768.40
Cable chamber
762.70
2600
760.70
757.90
755.76
754.00
768.00
766.79 (Design flood level P=3.33%)
767.71 (Check flood level P=1%)
761.92 (Tail water level when three unit operates in full load)
761.59 (Tail water level when two unit operates in full load)
761.13 (Tail water level when one unit operates in full load)
760.70 Φ0.6m Ecological base flow hole
758.50
1:4
Z0+070.000
13400
37500
9000
8350
2650
50900
20000
12500
Transverse Profile of River Diversion Section
Notes:
1. Units in the drawing: elevation is in meter;
stake mark is in km+m; dimension is in millimeter.
2. Scale: 0 2m 4m 6m 8m 10m
Hunan Hydro & Power Design Institute
Nam Paw Hydropower Station
Project feasibility
Design
Hydraulic Structure
Part
Design Scheme for Powerhouse at Dam Toe of Concrete Gravity Dam (Recommended Scheme)
Transverse Profile of Water Diversion Section
Approved by
Verified by
Reviewed by
Checked by
Designed by
Drawing
Tracing
CAD
Scale
See the drawing
Date
2015.03
Drawing No.
HND/NPHPS-04-01-04




Zoning Map of Non-overflow Dam Body




Zoning Map of Dam body at River Diversion Section

Notes:

1. Units in the drawing: elevation is in meter; stake mark is in km+m; dimension is in millimeter.

2. Scale: 0 2m 4m 6m 8m 10m

## Dam Materials at Different Sections

| Ser. No. | Part | Dam material |
|---|---|---|
| Ⅰ | Concrete used for external surface of dam body below the water level at upper and lower reaches | $R_{28}$C20,W6,F100 |
| Ⅱ | Concrete used for dam interior and for the external surface of dam body above water level at lower reaches | $R_{90}$C15,W4,F100 |
| Ⅲ | Concrete surrounding diversion steel pipeline | $R_{28}$C20,W6,F100 |

Hunan Hydro & Power Design Institute

| | | | | |
|---|---|---|---|---|
| Approved by | | Nam Paw Hydropower Station | Project feasibility | Design |
| Verified by | | | Hydraulic Structure | Part |
| Reviewed by | | Design Scheme for Powerhouse at Dam Toe of Concrete Gravity Dam (Recommended Scheme) | | |
| Checked by | | | | |
| Designed by | | Zoning Map of Dam (1/2) | | |
| Drawing | | | | |
| Tracing | CAD | Scale | See the drawing | Date 2015.03 |
| Design certificate No. | Certificate of engineering design A143004434 | Drawing No. | HND/NPHPS-04-01-05 | |

